تعليم المتعلم في طريق التعلم

# ဆည်းပူးသင်ယူ
# နည်းနာယူ

ပြုစုသူ

အေမာမ်ဗုရ်ဟာနွုလ်အစ္စလာမ်အဇ်ဇရ်နူဂျီ ﵀

(ဟစ်ဂျ်ရီ-၅၉၃-ခုနှစ်ကွယ်လွန်)

ကြီးကြပ်သူ

မုဖ်သီမုဟမ္မဒ်အာစွင်းမ် (နဒ်ဝီ-မဇ္ဇာဟော့ရီ-အဗုလ်ဟာစနီ)

ဘာသာပြန်ဆိုသူ

မော်လဝီယကီနွလ္လာဟ် (ကာစေ့မီ)

# မာတိကာ



## ဘာသာပြန်ဆိုသူ၏ အမှာစာ

الحمدلله الذي فضل بني آدم بالعلم والعمل على جميع العالم،والصلاةوالسلام على محمد سيدالعرب والعجم، وعلى آله وأصحابه ينابيع العلوم والحكم أمابعد.

ချီးမွမ်းထောပနာမှုအလုံးစုံသည် စကြာဝဠာအလုံးစုံကို အဆင့်ဆင့် ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်တစ်ပါးတည်းအတွက်သာလျှင်ဖြစ်ပါသည်။ ထို့အတူ မြတ်နဗီ( ﷺ ) အပေါ်၌လည်း အလ္လာဟ်အရှင်မြတ်ဘက်တော်မှ ငြိမ်းချမ်းသာယာမှုအပေါင်းခသြောင်း ပါစေ။

အိုချစ်ခင်ရပါသောစာရှုသူ...........အသင့်လက်ဝယ်ရောက်ရှိနေသော **ဆည်းပူးသင်ယူ နည်းနာယူ စာအုပ်**သည် ကျွန်ုပ်၏ **ပထမဆုံး** ဘာသာပြန် လက်ရာမွန်ဖြစ်ပါသည်။ မူရင်းကျမ်းမှာ تعليم المتعلم في طريق التعلم ဖြစ်သည်။ ကျမ်းရှင်မှာ--- ဟဇရသ်မောင်လာနာဗုရ်ဟာနွဒ္ဒီးန် ဇရ်နူဂျီ( رحمه الله) ဖြစ်ပါသည်။

ဤစာအုပ်သည် ကျွန်ုပ်၏ ပထမဆုံးဘာသာပြန်ဖြစ်သည့် အတွက် မှားယွင်းမှု၊ချွတ်ချော်မှုများ ရှိကောင်းရှိနိုင်မည်ဖြစ်သည်။ အပြု သဘောဆောင်သော ထောက်ပြမှုများအား ကမ်းလင့်ကြိုဆိုပါသည်။ ဤစာအုပ်ကို ကျွန်တော်ကိုယ်တိုင် ပြန်ရမည်ဆိုပါက ပြန်ဖြစ်မည် မဟုတ်ပါ။ ကျွန်တော့်ဆရာ ဟာဇရသ်မောင်လာနာမုဖ်သီအာစွင်းမ်နဒ်ဝီ (حفظه الله)၏ လမ်းညွှန်အကြံပေးမှုကြောင့် ဘာသာပြန်ဆိုနိုင်ခဲ့ခြင်း ဖြစ်ပါသည်။

ဤစာအုပ်တွင် ကျောင်းသားတစ်ဦးအတွက်ပညာရှာဖွေရာတွင် အရေးကြီးလိုအပ်သည့် နည်းလမ်းများ၊ ထားရှိရမည့် ခံယူချက်များ ကို စနစ်တကျချပြထားသော စာအုပ်ကောင်းတစ်အုပ် ဖြစ်ပါသည်။ ခေတ် အဆက်ဆက်သာသနာ့ပညာရှာဖွေသူများအတွက် အကောင်း ဆုံးသော လမ်းညွှန်ချက်များပေးစွမ်းနိုင်သော ကျမ်းတစ်စောင် ဖြစ်ပါ သည်။

ဤစာအုပ်၌ ကျမ်းရှင်သည် အခန်း(၁၃)ခန်းဖွဲ့စည်း တင်ပြထား သည်။ ဆရာကြီး၏ ဤစာအုပ်ရေးဖြစ်သွားခြင်းမှာ သူ့ခေတ် သူ့အခါ၌ရှိ သော ကျောင်းသားများ၏ ပညာရှာဖွေရာတွင် ချွတ်ချော်သော အနေ အထား၊ မှားယွင်းသော ခံယူချက်များကို တွေ့မြင်ရသောကြောင့် ဖြစ်ပါ သည်။ ကျွန်တော်သည် ဆရာကြီးရေးသားထားသည့် အရဗီစာသားကို အတတ်နိုင်ဆုံး ကြိုးစား၍ ဆီလျော်စွာမြန်မာမှုပြုခဲ့ပါသည်။ အကြောင်း မှာ ကျွန်တော်တို့ မြန်မာနိုင်ငံရှိ ကျောင်းသားများအဖို့ ဆရာကြီး၏

တန်ဖိုးမဖြတ်နိုင်သော လမ်းညွှန်မှုများကို ပြန်လည်မျှဝေပေးလိုသော ကြောင့်ဖြစ်ပါသည်။ စာရှုသူများအနေဖြင့် အချို့နေရာများတွင် ဘာသာ ပြန်မဆီလျော်မှုများ၊ ပြေပြစ်မှုမရှိခြင်းများကို မုချတွေ့ရနိုင်ပါမည်။ ဤ သည်ကျွန်ုပ်၏မြန်မာစာအားနည်းမှုကြောင့်သာဖြစ်ကြောင်းထပ်မံအသိ ပေးပါရစေ။

ဤစာအုပ်ကို ပြုစုရန်အကြံပေးခဲ့သော ကျွန်ုပ်၏ဆရာ ဟာဇရသ် မောင်လာနာမုဖ်သီအာစွင်းမ်(နဒ်ဝီ)၊ ဟာဇရသ်မောင်လာနာမုဖ်သီဂျလာ လွဒ္ဒီးန်(နဒ်ဝီ)နှင့် ဟာဇရသ်မော်လာနာအင်မ်ရားန်(အလ်ကောင်ဆရီ)တို့ အားလည်းကောင်း၊ မြန်မာစာ စနစ်တကျ စစ်ပေးခဲ့သော ဆရာအေးမူ B.Sc(zoo)အားလည်းကောင်း၊ ကျွန်ုပ်၏ ချစ်မိတ်ဆွေများ ဖြစ်ကြသော မောင်လာနာအွတ်စ်မာန်း (အလ်ကောင်ဆရီ-သံတွဲ)၊ မောင်လာနာ အွတ်စ်မားန်(အလ်ကောင်ဆရီ-သာစည်)၊ မုဟမ္မဒ်ကအစ်ဗ်ဟာစံနှင့်အခြား ကူညီပံ့ပိုးသူ အပေါင်းအား အလ္လာဟ်အရှင်မြတ်သခင် နှစ်ဘဝနှစ်ဌာန၌ ကောင်းသောအစားများ ချီးမြှင့်ပေးသနားတော်မူပါစေ။ အာမီးန်

**မော်လဝီယကီနွလ္လာဟ် (ကာစေ့မီ)**



## အလ်ဟားဂျ် မုဖ်သီ မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ)၏ ကျမ်းဦးစကား

အီမာန်ယူပြီးနောက် ဘဝတွင်အခမ်းအနားဆုံး၊ အလှပဆုံး ဆုလာဘ်မှာ အိလ်မ်(အသိပညာ)ချီးမြှင့်ခံရခြင်းဖြစ်သည်။ ဤအိလ်မ် ကြောင့် လူသားမျိုးနွယ်စုတစ်ခုလုံး ကောင်းကင်ယံတွင် ပွဲလယ်တင့်ခဲ့ သည်။ ဤအိလ်မ်ကြောင့် အားလုံးထက် သာမြတ်ခဲ့ရသည်။ ဤအိလ်မ် ဖြင့် စကြာဝဠာတစ်ခုလုံးကို ထိန်းချုပ်နိုင်ခဲ့သည်။

ဤမျှကြီးကျယ်ခမ်းနားလှသည့် အိလ်မ်အသိပညာသည် ရှာဖွေ ရသည်။ သူ့အတွက် ပေးဆပ်မှုများစွာ ပြုလုပ်ရသည်။ ထိုသို့ရှာဖွေပေး ဆပ်ရာတွင်လည်း နည်းလမ်းများ၊ နီတိများရှိသည်။ နည်းလမ်းမှန်ကန် စွာ သင်ယူမှသာလျှင် အိလ်မ်၏ဝိဉာဉ်၊အနှစ်သာရ၊ နူးရ်အလင်းရောင် များကို ရရှိပိုင်ဆိုင်နိုင်မည်။ မဟုတ်ပါက ဝိဉာဉ်မပါသော စကားလုံးများ ကိုသာ ရရှိမည်ဖြစ်သည်။

ဖခင်ကြီးအာဒမ် عَلَيْهِ ٱلصَّلَاةُ وَٱلسَّلَامُ ၏ ခေတ်မှစတင်ပြီး ယနေ့တိုင် ပွင့် လေသမျှ နဗီတမန်တော်များနှင့်ထိုနဗီအပေါင်းတို့၏ နောက်လိုက်များ က အိလ်မ်အသိပညာကို သင်ယူနည်းများနှင့်တကွ တင်ပြကြ သည်။

ကျွန်ုပ်တို့၏ကျေးဇူးရှင်နဗီတမန်တော်မြတ် صَلَّى ٱللَّٰهُ عَلَيْهِ وَسَلَّمَ ကလည်း အိလ်မ်ပညာ ဆည်းပူးသင်ယူခြင်း၏ ထွတ်မြတ်မှု၊ အိလ်မ်သင်ယူခြင်း ဆိုင်ရာ နည်းနာများ၊ စစ်မှန်သည့် အိလ်မ်အသိပညာရရှိစေရန် တောင်း

ဆုဒိုအာများ၊ အိလ်မ်မှ လက်မဲ့ဖြစ်သွားစေသည့် အကြောင်းတရားများ .... စသည်တို့ကို အသေးစိတ် စနစ်တကျ ဂဃနဏ မိန့်ကြားခဲ့သည်။

ထိုမိန့်ကြားချက်များကို ခေတ်အဆက်ဆက် ပညာရှင်များက 'ဧ။်' 'သည်' မရွေး တာဝန်သိသိ၊ သစ္စာရှိရှိဖြင့် လက်ဆင့်ကမ်းထားခဲ့ကြသည်။

ဤကြိုးပမ်းမှုများအနက် ဟစ်ဂျ်ရီ(၆)ရာစုနှစ်တွင် ပွင့်ပေါ်ခဲ့သော အဓိပဓိပညာရှင်ကြီး အလ္လာဟ်မဟ် ဗုရ်ဟားနူလ်အစ္စလာမ်ဇရ်နူဂျီ رَحِمَهُ ٱللَّهُ ရေးသားပြုစုခဲ့သည့် تعليم المتعلم في طريق التعلم ကျမ်းသည် အိလ်မ်အသိပညာဖြန့်ချိရေး အသိုင်းအဝိုင်း၊ နယ်ပယ်တွင် လက်ခံမှုရရှိသည့် ကျမ်းတစ်ဆူဖြစ်သည်။

ပညာဆည်းပူးစဥ် ထားရှိရမည့်နီယသ်ရည်စူးချက်၊ အာလင်မ်ပညာ့ရှင်များကိုလေးစားခြင်း၊ ကြိုးစားခြင်း၊ စွဲစွဲမြဲမြဲလုပ်ခြင်းနှင့်ဖွဲလုံ့လဝီရိယရှိခြင်း၊ သင်ခန်းစာ စတင်ခြင်းအနုပညာ၊ အိလ်မ်ပညာဖွေရှာရာတွင် အစီအစဉ်တကျ လုပ်ဆောင်ခြင်း၊ အိလ်မ်ကို တန်ဖိုးထားခြင်း၊ ပညာသင်ယူရန် အကောင်းဆုံးအချိန်၊ ပြန်လည်သင်ပေးရာတွင် အကောင်းလိုလားပေးခြင်းနှင့်သနားကြင်နာခြင်း၊ လူတိုင်းထံမှ အကျိုးခံစားခြင်း၊ ပညာသင်ယူစဉ် သက္ကဝါတရားလက်ကိုင်ထားခြင်း၊ မှတ်ဉာဏ်တိုးစေသောအရာနှင့် မေ့လျော့မှုဖြစ်စေသော အရာများ၊ ရိဇ္ဇတိုးစေသောအရာများနှင့် လက်မဲ့ဖြစ်စေသောအရာများ။ စသဖြင့် သာသနာ့ပညာသင်ယူသော ကျောင်းသားများအတွက် နည်းလမ်းကောင်းများ၊

လိုက်နာရမည့်အချက်များ၊ ကျင့်ရန်ကြဉ်ရန်များကို အခန်း(၁၃)ခန်းခွဲပြီး တင်ပြထားသည်။ တင်ပြပုံမှာ ကောင်းမွန်ပြီး အရာရာကို တိတိကျကျ သုတေသနဆန်ဆန် တင်ပြထားသည်။

ဤစာအုပ်ထွက်ပေါ်ခဲ့သည်မှာ (၉)ရာစုနှစ်ကျော် ကြာခဲ့ပြီ ဖြစ်သော်လည်း ခေတ်တိုင်းခေတ်တိုင်းရှိ ပညာရှင်များက ဤစာအုပ်ကို ကျောင်းသား၊ကျောင်းသူများအတွက် လက်စွဲကျမ်းအဖြစ် သတ်မှတ်ထားရန် ညွှန်ကြားကြသည်။

ဤမျှ သမိုင်းအစဉ်အလာ ခမ်းနားလှသည့်ကျမ်းကို မျိုးဆက်သစ်ကလောင်ရှင် အာလင်မ်တစ်ပါးဖြစ်သော မော်လဝီယကီနွလ္လာဟ်(ကာစေ့မီ)ကဘာသာပြန်ဆိုလိုက်ခြင်းဖြစ်ပါသည်။

ဤဘာသာပြန်ကျမ်းသည် မော်လာနာဆပ်၏ ပထမဆုံးလက်ရာမွန် ဖြစ်ပါသည်။ ထို့ကြောင့် လိုအပ်ချက်များ၊ မှားယွင်းချွတ်ချော်မှုများ၊ မဆီလျော်မှုများရှိနိုင်ပါသည်။ လိုအပ်သည်များကိုလည်း စာဖတ် ပရိသတ်မှ ဝိုင်းဝန်းအကြံပြုစေလိုပါသည်။

မော်လာနာ၏ ဘာသာပြန်ဆိုချက်အား အစမှအဆုံးတိုင် ကျွန်တော် ဖတ်ရှုခွင့်ရခဲ့ပါသည်။ အချို့သော အကြံပြုချက်များလည်း ပေးခွင့်ရခဲ့ပါသည်။ ကျွန်ုပ်၏ ဆရာသခင်တစ်ပါးဖြစ်သူ အလ်ဟားဂျ် ဆရာဦးအေးမူ B.Sc(zoo) ကလည်း မြန်မာစာရှုထောင့်မှ စနစ်တကျ စစ်ဆေးပေးခဲ့ပါသည်။

ဤကျမ်းသည် သာသနာ့ပညာသင်ယူနေကြသော ကျောင်းသား၊ ကျောင်းသူများအတွက် တန်ဖိုးမဖြတ်နိုင်သည့် ကျမ်းတစ်ဆူ ဖြစ်သည်။ အိလ်မ်အသိပညာရှာဖွေဆည်းပူးရာတွင် ထားရှိရမည့် ရည်ရွယ်ချက်၊ ရည်မှန်းချက်ပျောက်ဆုံးနေသော ကျောင်းသား၊ကျောင်းသူများအတွက် ပို၍ပင် တန်ဖိုးကြီးမားလှပါသည်။

ယနေ့ခေတ် မွတ်စ်လင်မ့်အသိုင်းအဝိုင်းတွင် အိလ်မ် အသိပညာရှာဖွေလိုခြင်း၊ မိမိတို့ရင်သွေးငယ်များကို အိလ်မ် အသိပညာဖြင့် ဆင်မြန်းပေးလိုသည့် ဆန္ဒများ ရှေးယခင်ကထက်ပင် ပိုမိုမြင့်တက်လျက် ရှိပါသည်။

ဤဆန္ဒများနှင့် မှန်ကန်သော ရှာဖွေဆည်းပူးနည်းများ အချိုးကျပေါင်းစပ်မိသွားပါက ရွှေပေါ်မြတင်ဘိအလား များစွာသော အကျိုးများ သက်ရောက်မည်မှာ သေချာပါသည်။

မူရင်းကျမ်းပြုစုသူ၊ ဘာသာပြန်ဆိုသူနှင့် စာအုပ်ဖြစ်မြောက်ရေးအတွက် အဘက်ဘက်မှ ပါဝင်ပေးသူများ၊ ဤစာအုပ်မှ အကျိုးခံစားကြမည့် ကျောင်းသား၊ ကျောင်းသူ အပေါင်းတို့ကို နှစ်ဘဝနှစ်ဌာနတွင် ကောင်းသော အစားများ အရှင်မြတ် ချီးမြှင့်ပေးသနားတော်မူပါ။

စာရှုသူအပေါင်းကို လေးစားလျက်

မုဟမ္မဒ် အာစွင်းမ် (နဒ်ဝီ၊အဇ္ဟရီ၊ မဇ္ဇာဟေ့ရီ)

ဟစ်ဂျ်ရီ (၁၄၄၆)ခု၊ ရဗီအွလ်အောက်ဝလ်(၅)ရက်

9/9/2024(တနင်္လာနေ့)

## အခန်း (၁)
## သာသာနာ့ပညာ၏အရေးကြီးပုံနှင့်သာသနာ့ပညာ၏ထွက်မြတ်မှု

မြတ်နဗီ ﷺ အမိန့်ရှိတော်မူသည်။ သာသနာ့ပညာရှာဖွေဆည်းပူးခြင်းသည် မွတ်စ်လင်မ်အမျိုးသား၊ အမျိုးသမီးတိုင်းအပေါ် မလုပ်မနေရတာဝန်တစ်ရပ်ဖြစ်သည်။မွတ်စ်လင်မ်တိုင်းသည်ပညာရပ်တိုင်းသင်ယူတတ်မြောက်ထားရန် အရေးမကြီးသော်လည်း အိလ်မွလ်ဟားလ်ဟုခေါ်တွင်သောလူ့ဘဝတွင်မလွဲမသွေကြုံဆုံရမည့်ကိစ္စရပ်များကိုသင်ယူရန်မှာ မလုပ်မနေရတာဝန်ဖြစ်သည်။ ထို့ကြောင့်အမှတ်သညာပြုပြောလေ့ပြောထရှိသည့်အရာမှာ ပညာရပ်ထဲ၌ အမြင့်မြတ်ဆုံးပညာသည် အိလ်မွလ်ဟားလ်ဟုခေါ်သည့် လူ့ဘဝတွင်မလွဲမသွေကြုံဆုံရမည့်အရာကိုသိရှိသည့်ပညာရပ်ပင်ဖြစ်သည်။ ဥပမာအနေဖြင့်ပြောရလျှင် အီမာန်ယုံကြည်မှုပိုင်းဆိုင်ရာနှင့်ပတ်သက်သည့် အသိပညာများအား လေ့လာခြင်းကဲ့သို့ဖြစ်သည်။

အမွန်မြတ်ဆုံးအလုပ်သည် လက်ရှိအခြေအနေကို ထိန်းသိမ်းစောင့်ရှောက်ခြင်းဖြစ်သည်။မိမိလက်ရှိကြုံနေရသောအရာကို လေ့လာခြင်းသည် မွတ်စ်လင်မ်တိုင်းအပေါ် မလုပ်မနေရတာဝန်ဖြစ်သည်။

ဥပမာ- နမားဇ်၌ အရေးကြီးသည့်အရာကို သင်ယူခြင်း၊ နမားဇ်ထဲ၌ ကြုံတွေ့ရမည့်နမားဇ်၏ဖရ်သွ်၊ဝါဂျိဗ်ဖြစ်သည့်အရာများကို သင်ယူခြင်း သည် မွတ်စ်လင်မ်တိုင်းအပေါ် မလုပ်မနေရ တာဝန်ဖြစ် သည်။

ဆွေယာမ်း(ဥပုသ်)စောင့်ထိန်းခြင်းကဏ္ဍနှင့် အကယ်၍မွတ်စ် လင်မ်တစ်ဦးသည် ငွေကြေးဥစ္စာကြွယ်ဝချမ်းသာသူဖြစ်ပါမူ ဇကားသ် (ဆင်းရဲသားဒါနကြေးပေးဆောင်ခြင်းကဏ္ဍ) တွင်လည်း အရေးပါသော အချက်အလက်များကို သင်ယူခြင်းသည် မလုပ်မနေရတာဝန်ဖြစ်သည်။ ထို့အတူ တတ်စွမ်းနိုင်သူတို့အပေါ် အရေးကြီးသည့်ဟဂ်ျဆိုင်ရာအမိန့် ပ ညတ်ချက်များနှင့် အကယ်၍စီးပွားရေးလုပ်သူဖြစ်လျှင် အရောင်းအဝယ် ကဏ္ဍ၌ အရေးကြီးလိုအပ်သည့် သာသနာ့လမ်းညွှန်ချက်များကို သင် ယူခြင်းသည် ဖရသွ် (မလုပ်မနေရတာဝန်)ဖြစ်သည်။

အေမာမ်မုဟမ္မဒ်ဗင်န်ဟစန်ﷺအား ဇိုဟ်ဒ်ခေါ်လောကကို ကျော ခိုင်းခြင်းကဏ္ဍနှင့်ပတ်သက်ပြီး အသင်ကျမ်းစာတစ်စောင် မပြုစုခဲ့ပေ လောဟုလျှောက်ထားကြရာ အေမာမ်ကြီးက--- ကျွန်ုပ်သည်အရောင်း အဝယ်ကဏ္ဍများနှင့်ပတ်သက်ပြီးကျမ်းစာတစ်စောင်ပြုစုခဲ့ပြီးဖြစ်သည်။ ဆိုလိုသည်မှာ--------- လောကီကို ကျောခိုင်းပြီး လောကုတ္တရာအရေးကို ရှေ့ရှုသည့်သူသည်အရောင်းအဝယ်၊ကူးသန်းရောင်းဝယ်ရေးကဏ္ဍများ၌ မက္ကရူဟ်(ခေါ်) မနှစ်မြို့ဖွယ်ရာကိစ္စရပ်များနှင့် သံသယဖြစ်ဖွယ်ရာကိစ္စ ရပ်များမှရှောင်ရှားသူ၊ အပေးအယူကဏ္ဍအသီးသီးနှင့် လက်မှုလုပ်ငန်း အသီးသီးတွင်လည်း ထိုကိစ္စရပ်များမှ ရှောင်ရှားသောသူ ဖြစ်သည်။

ဤကဏ္ဍများတွင် မှားယွင်းချွတ်ချော်သူ၊ရှုရီအသ်ဘောင်နှင့် ငြိစွန်းသောသူများမှာ မိမိအခြေနေကိုအမြန်ဆုံးသုံးသပ်ကာ ဘောင်မဝင်သောအရာတိုင်းအား စွန့်လွှတ်ကျော်ခိုင်းလိုက်ရမည်။

ထိုနည်းအတိုင်း နှလုံးသား၏အခြေအနေများအနက် အလ္လာဟ်အရှင်မြတ်ကိုသာ ယုံပုံအားထားခြင်း၊ အလ္လာဟ်အရှင်မြတ်ထံသို့ ပြန်လှည့်ခြင်း၊ အလ္လာဟ်အရှင်မြတ်ကိုသာကြောက်ရွံ့ခြင်းနှင့် အလ္လာဟ်အရှင်မြတ်၏ကျေနပ်မှုရယူခြင်းတို့ကို သင်ယူလေ့လာခြင်းသည်လည်း အရေးကြီးသောမလုပ်မနေရတာဝန်ဖြစ်သည်။ထိုအရာများသည် အခြေအနေတိုင်း၌ ကြုံကြိုက်နေသော အရာများဖြစ်ပါသည်။

အသိပညာ၏ထွတ်မြတ်မှုသည် လူတစ်ယောက်တိုင်းအပေါ်၌ ဖုံးကွယ်မနေပေ။အသိပညာသည် လူသားအထူးပြုထားသည့် ဘာသာရပ်ဖြစ်သည်။

ဤနေရာ၌**ဆရာအောင်သင်း**၏**"ကျွန်တော်ကျောင်းဆရာ"** ဆိုသည့် စာအုပ်ထဲတွင်ရေးသားထားသည့်အချက်များကိုပြန်လည် တင်ပြလိုသည်။

**တိရိစ္ဆာန်တိုင်းထက် လူကသာသည်မှာ အရာ(၃)ခုသာ ဖြစ်သည်။**

**၁။စဥ်းစားဆင်ခြင်ဉာဏ်ပညာကြီးခြင်း**
**၂။ကိုယ်ကျင့်တရားရှိခြင်း**
**၃။အလှအပကိုခံစားဖန်တီးတတ်ခြင်း**

## ထိုသုံးချက်မှာတော့ဖြင့် ဘယ်တိရစ္ဆာန်မှ လူကို မမီနိုင်တော့ပြီ။

(ကျွန်တော်ကျောင်းဆရာ-ဆရာအောင်သင်း)

အသိပညာအပြင် ကျန်သည့်အကျင့်များ၌ လူသားနှင့်တိရစ္ဆာန်များအတူတူပင်ဖြစ်သည်။ ဥပမာ-------ရဲစွမ်းသတ္တိရှိခြင်း၊ အတင့်ရဲခြင်း၊ အင်အားရှိခြင်း၊ ရက်ရောခြင်း၊ သနားကြင်နာခြင်းစသည့် အသိပညာမဟုတ်သော ကျန်သည့်ကိစ္စများအားလုံး အကျုံးဝင်သည်။ အသိပညာကိုအခြေခံပြီး အလ္လာဟ်အရှင်မြတ်သည် ဖခင်ကြီးအာဒမ်( ﷺ )ကို (မလာအိကဟ်)ကောင်းကင်တမန်တော်တို့ထက် သာပိုမြင့်မြတ်စေခဲ့ပြီး ဖခင်ကြီးအာဒမ်(ﷺ)ကို ဂုဏ်ပြုသည့်အနေဖြင့် စဂျ်ဒဟ်ဦးချရန် မလာအိကဟ်(ﷺ)များအား အမိန့်ပေးခဲ့ခြင်းဖြစ်သည်။ အသိပညာ၏ ထွတ်မြတ်မှုအား ဖော်ကျူးပြရလျှင် အသိပညာသည် အလ္လာဟ်အရှင်မြတ်ထံတော်၌ အမြဲထာဝစဥ် နဖူးစာကံကောင်းပြီးချီးမြှင့်မြောက်စားမှုကိုထိုက်သက်စေမည့် သက္ကဝါ (ခေါ်) အကြောက်တရားရှိခြင်းဘက်သို့ လူသားအားတွန်းပို့ပေးမည့် အကြောင်းခံပင်ဖြစ်သည်။

အေမာမ်မုဟမ္မဒ်ﷺသခင်ရှေ့မောက်တင်ပြခံရသော ရွှေစကားများကို ပမာအားဖြင့်တင်ပြလိုသည်။

"အသင် ပညာသင်ကြားပါ။ ပညာသည် ပညာရှင်အတွက် အလှတန်ဆာ၊ ထွတ်မြတ်မှုနှင့် ချီးမွမ်းဖွယ်ကောင်းသည့် ကိစ္စရပ်များအတွက် အခရာကျသည့် ခေါင်းစီးဖြစ်သည်။ အသင်သည် ပညာမှ နေ့စဥ်ရက်

ဆက် သာပိုအကျိုးခံစားသူ ဖြစ်ပါလေ။ အကျိုးထူးများနှင့် တသွင်သွင် စီးနေသည့် ပင်လယ်များစွာထဲတွင် ကူးခတ်ပါလေ။"

အသင်ဖိကဟ်ပညာရှင် ဖြစ်အောင်လုပ်ပါ။ ဖိကဟ်ပညာသည် ကောင်းခြင်းနှင့် သက္ကာဝါတရားရရှိရန် အကောင်းဆုံးခေါင်းဆောင်၊ အမျှ တဆုံးသူသာလျှင် ဖြစ်ပါသည်။

ထိုအသိပညာသည် လမ်းမှန်တရား၏ လမ်းစဥ်များအား ပြသသည့် ပုဂ္ဂိုလ်ဖြစ်သလို အခက်အခဲအလုံးစုံမှ လွတ်မြောက်စေမည့် ခံတပ်သဖွယ်ဖြစ်သည်။ အပြစ်ရှောင်ကြဥ်သော ဖိကဟ်ပညာရှင် တစ်ယောက်သည် တရားအားထုတ်သူ တစ်ထောင်ထက်ပိုပြီး ရှိုင်သွာန်မိစ္ဆာကောင်အတွက် ခက်ခဲပြင်းထန်စေမည် ဖြစ်သည်။

ကိုယ်ကျင့်တရားအားလုံး၌လည်း ဤအတိုင်းပင်ဖြစ်သည်။

ဥပမာ----------ရက်ရောခြင်း၊ စေးနဲ့တွန့်တိုခြင်း၊ သူရဲဘောကြောင်ခြင်း၊ အတင့်ရဲခြင်း၊ မောက်မာခြင်း၊ ရိုကျိုးခြင်း၊ တင်းတိမ်ခြင်း၊ ဖြုန်းတီးခြင်း၊ အစရှိသည့် ကိစ္စအားလုံးသည် အတူတူပင် ဖြစ်သည်။ မောက်မာခြင်း၊ စေးနဲခြင်း၊ သူရဲဘောကြောင်ခြင်းနှင့်ဖြုန်းတီးခြင်းသည် **ဟရာမ်(ခေါ်) မလုပ်ရန်တားမြစ်ထားသော** အရာများဖြစ်သည်။ထိုကိစ္စရပ်များမှရှောင်ရှားနိုင်ခြင်းသည်ယင်းတို့၏ဆန့်ကျင်ဘက်ကိစ္စရပ်များကို သိရှိခြင်းဖြစ်သည်။ထို့အတွက်ကြောင့် လူသားတိုင်းအဖို့ထိုကိစ္စရပ်များအားသိရှိခြင်းသည် မလုပ်မနေရ ဖွရသွ်တာဝန် ဖြစ်သည်။

စာရိတ္တာရေးရာကိစ္စရပ်များနဲ့ပတ်သက်ပြီး အေမာမ်စိုင်ယဒ်ရှဟီး ဒ်နဆွိရ္ဒွီးန်အဘုလ်ကာစင်မ်(ﷺ) က ကြီးကျယ်သော စာအုပ်တစ်အုပ် ပြုစုခဲ့သည်။ အေမာမ်ကြီးပြုစုခဲ့သည့် စာအုပ်သည် အင်မတန်ကောင်း မွန်သည့်အတွက် မွတ်စ်လင်မ်တိုင်းကျက်မှတ်၊ ထိန်းသိမ်းရန် အရေးကြီး လှသည်။

တစ်ခါတစ်ရံ ကြုံကြိုက်သည့်အရာကို ထိန်းသိမ်းခြင်းသည် ဖရ် သွေ့ကေဖာယဟ်(ခေါ်) မြို့ရွာ၌ရှိသော လူတစ်စု၏ လုပ်ဆောင်ချက် ကြောင့် အခြားသူများထံမှ တာဝန်ကျသွားခြင်းဖြစ်သည်။ အကယ်၍ မြို့၊ရွာ၌ရှိသော လူတစ်ဦးတစ်ယောက်မျှ အကောင်အထည်မဖော်ခဲ့ပါမူ အားလုံးအပြစ်ထိုက်မည်ဖြစ်သည်။

ခေါင်းဆောင်အေမာမ်သည် ထိုကိစ္စရပ်အားဆောင်ရွက်ရန် ရပ် ကွက်သူ၊ရပ်ကွက်သားများအားအမိန့်ပေးရမည်။ လိုအပ်ပါက အတင်း အကျပ် ခိုင်းစေရမည်ဖြစ်သည်။

အခြေအနေတိုင်း၌ မိမိကြုံတွေ့ရမည့်အရာကို သိရှိခြင်းသည် လူတစ်ယောက်တိုင်းအတွက်အစားအသောက်သဖွယ်အရေးကြီးသည် ။ တစ်ခါတစ်ရံ၌ကြုံကြိုက်သောအရာကိုသိရှိခြင်းသည် နာမကျန်းသည့် အချိန် လိုအပ်သည့်ဆေးသဖွယ် ဖြစ်သည်။ **နက္ခဗေဒပညာရပ်များ**သည် နာမကျန်းသည့် အဆင့်အတန်းမျိုး၌သာရှိပြီး သင်ယူခြင်းသည် **ဟရာမ်** ဖြစ်သည်။ ထိုပညာရပ်သည် အဆိုးသာရှိပြီး အကျိုးမရှိသောကြောင့် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ဆုံးဖြတ်ချက်၊သတ်မှတ်ချက်မှ ထွက်

ပြေးခြင်းသည်မည်သို့မျှမဖြစ်နိုင်ပေ။ မွတ်စ်လင်မ်တိုင်းသည် မိမိအချိန်များစွာအား အလ္လာဟ်အရှင်မြတ်ကို သတိရတသခြင်း၊ တောင်းဆုချွေခြင်း၊ ရိုကျိုးခြင်း၊ ကျမ်းမြတ်ကုရ်အာန်ဖတ်ရွတ်ခြင်းနှင့် ဘေးဒုက္ခများမှ ကာကွယ်ပေးမည့်အလှူဒါနများ ပြုလုပ်ခြင်း၌သာ မွေ့လျော်သင့်သည်။ လောကီလောကုတ္တရာနှစ်ဌာနစလုံး၌ခွင့်လွှတ်ချမ်းသာမှုနှင့် ကောင်းမွန်သောအခြေအနေများချီးမြှင့်ရန်အလ္လာဟ်အရှင်မြတ်ထံပါး၌သာတောင်းခံသင့်ပေသည်။ အလ္လာဟ်အရှင်မြတ်ထံမှ မိမိအား ဘေးဥပါဒ်အပေါင်းမှ ထိန်းသိမ်းပေးရန်တောင်းခံသင့်ပေသည်။ အကြောင်းမှာဒုအာတောင်းခွင့်ရှိသူတိုင်းသည် အရှင်မြတ်၏ လက်ခံခြင်းကို မုချရရှိမည်ဖြစ်သည်။ အကယ်၍အခက်အခဲဒုက္ခသည်မလွှဲမသွေကျရောက်ရန် သတ်မှတ်ထားလင့်ကစား အလ္လာဟ်အရှင်မြတ်သည် ထိုအခက်အခဲများကို လွယ်ကူအောင်ပြုလုပ်ပေးတော်မူမည်ဖြစ်သည်။ဒုအာ၏မင်္ဂလာကြောင့်သည်းခံနိုင်စွမ်း ချီးမြှင့်မည်ဖြစ်သည်။

အကယ်၍ ထိုမွတ်စ်လင်မ်သည် နက္ခဗေဒပညာရပ်များထဲမှ ကိဗ်လဟ်မျက်နှာမူရာအရပ်နှင့်နမားဇ်၏အချိန်များသိနိုင်သည့် အတိုင်းအတာမျှ သင်ယူခြင်းသည် ပြုပိုင်သည်။ ဆေးပညာကို သင်ယူခြင်းသည် ပြုပိုင်သည်။ ဆေးပညာသည် အကြောင်းခံများထဲမှ အကြောင်းခံတစ်ခုဖြစ်သည့်အတွက် သင်ယူခြင်းသည် အခြားအကြောင်းခံများသဖွယ် ပိုင်သည်။ မုချကိုယ်တော်သခင်ﷺသည် ဆေးကုသခဲ့သည်။

အေမာမ်ရာဖေ့အီﷺသခင် အမိန့်ရှိသည်မှာ- ဖိကဟ်ပညာကို သိရှိခြင်းသည် သာသနာရေးရာကိစ္စများအတွက် အရေးကြီးပြီး ဆေးပညာကို သိရှိခြင်းသည် ခန္ဓာကိုယ်ရေးရာ ကိစ္စများအတွက် အရေးကြီးသည်။ ကျန်ဘာသာရပ်များသည် ဖရ်သွေ့ကေဖာယဟ်သာဖြစ်သည်။ အိလ်မ်၏ဖွင့်ဆိုချက်မှာ အိလ်မ်သည် မိမိနှင့်ကိုက်ညီသည့် သဘောတရားအတိုင်း မိမိနှင့်ဆက်နွယ်နေသော အရာများအား အကောင်အထည်ဖော်သူအဖို့ ပေါ်လွင်နေသောဝိသေသရှိသည့် ပညာရပ် ဖြစ်သည်။ ဖိကဟ်ပညာရပ်ဆိုသည်မှာ ကုစားထားသော အမျိုးအစားနှင့်တကွ အိလ်မ်၏အနုစိတ်သောအရာများကို သိရှိခြင်းဖြစ်သည်။ အေမာမ်အဘူဟနီဖွာဟ်ﷺမိန့်တော်မူသည်မှာ------ ဖိကဟ်ပညာရပ်သည် မိမိအတွက် အကျိုးရှိသောအရာနှင့် အဆိုးရှိသောအရာကို သိရှိခြင်းဖြစ်သည်။ ဆက်လက်၍မိန့်တော်မူသည်မှာ အိလ်မ်သာသနာ့ပညာသည် လက်တွေ့အကောင်အထည်ဖော်ခြင်းကြောင့်သာ တည်မြဲသည်။ သာသနာ့ပညာကို လက်တွေ့အကောင်အထည်ဖော်ခြင်းသည် နောက်မှပေါ်ပေါက်လာမည့်အကျိုးအတွက်လတ်တလော အလျင်အမြန်ဖြစ်ပေါ်လာသည့်အရာကို စွန့်လွှတ်ခြင်းဖြစ်သည်။ သို့ရှိရာလူသားသည် ဘဝအစအဆုံး မိမိကိုယ်ကိုမိမိ မမေ့လျော့သင့်ရုံသာမက မိမိအားအကျိုးပြုသောအရာနှင့်အဆိုးပြုသောအရာအားလည်းမမေ့လျော့သင့်ပေ။ ထိုသို့မမေ့လျော့ပါမူ အကျိုးကိုဆထက်ထမ်းပိုးဆွဲယူနိုင်ပြီး သူ၏အသိဉာဏ်နှင့်အသိပညာသည်သူ့အတွက်ဆန့်ကျင်ဘက်အထောက်အထား မဖြစ်

ရလေအောင် အဆိုးမှရှောင်ရှားနိုင်မည်ဖြစ်သည်။ ထိုသို့ ဆန့်ကျင်ဘက် အထောက်အထား ဖြစ်လာပါမူ အပြစ်ပိုကြီးသွားမည်ဖြစ်သည်။ ကျွန်တော်မျိုးတို့သည်အလ္လာဟ်အရှင်မြတ်ထံတော်ပါး၌ ထိုအရှင်၏ ပြစ်ဒဏ်ပေးခြင်းနှင့်အမျက်တော်ရှခြင်းမှခိုလှုံပါသည်။ အိလ်မ်၏အကျိုးကျေးဇူးများ၊အဆင့်အတန်းများနှင့်ပတ်သက်၍ အာယသ်တော်များ၊ မှန်ကန်ကျော်ကြားသောဟဒီးဆ်တော်များ လာရှိထားသည်။ ဤနေရာတွင် ကျမ်းလေးမည်ကို စိုး၍မဖော်ပြတော့ပါ။



## အခန်း (၂)
## ပညာသင်ယူစဥ် နီယသ် (ကောင်းသောရည်စူးချက်)ထားရှိခြင်း

ပညာသင်ယူစဥ်ကာလ၌ မွန်မြတ်သောရည်စူးချက်ထားရန် အရေးကြီးသည်။ ကိစ္စရပ်တိုင်းတွင် ရည်စူးချက်သည် အဓိကဖြစ်သည်။ ရည်စူးချက်နှင့်ပတ်သက်၍ ကိုယ်တော်သခင်ﷺသည် ဤသို့အမိန့်ရှိတော်မူသည်။ "လုပ်ရပ်တိုင်းသည် ရည်စူးချက်ပါမှစဝါးဗ်ရရှိမည်။" (ဗိုခါရီကျမ်း၊ ဝဟီအခန်း)

ကိုယ်တော်သခင်ﷺအမိန့်ရှိတော်မူသည်မှာ------ "များစွာသောလုပ်ရပ်များသည် လောကီရေးရာအလုပ်များ အသွင်ဆောင်နေသော်လည်း ရည်စူးချက်ကောင်းမွန်မှုကြောင့် လောကုတ္တရာအလုပ်များထဲမှ

ဖြစ်သွားသည် ။(ဆိုလိုသည်မှာဆဝါးဗ်ရရှိသွားသည်။) ထိုနည်းတူစွာများစွာသောလုပ်ရပ်များသည် လောကုတ္တရာအလုပ်များ အသွင်ဆောင်နေသော်လည်း ရည်စူးချက်ဆိုးဝါးမှုကြောင့်လောကီ၏အလုပ်ကိစ္စရပ်များထဲမှ ဖြစ်သွားသည်။ (ဆဝါးဗ်မှ လက်မဲ့ဖြစ်သွားရသည်။)

သာသနာ့ပညာသင်ကြားမည့်စာသင်သားသည် အလ္လာဟ်အရှင်မြတ်၏ ကျေနပ်နှစ်သက်မှုရရှိရန်၊ အာခိရသ်၌လည်း ကောင်းမွန်စွာနေထိုင်နိုင်ရန်၊မိမိဘက်မှသော်လည်းကောင်း အခြားမသိမိုက်မဲသူများအားလုံးဘက်မှသော်လည်းကောင်း မသိမိုက်မဲမှုကို ဖယ်ရှားပေးရန်၊ သာသနာကိုရှင်သန်အောင်လုပ်ပေးရန်နှင့် အစ္စလာမ်သာသနာ အစွန့်ရှည်စေရန်ရည်စူးချက်ထားသင့်ပါသည်။ အစ္စလာမ်သာသနာ အစွန့်ရှည်နေခြင်းသည် အသိပညာရှိမှုကြောင့်ဖြစ်သည်။ မသိမိုက်မဲမှုနှင့်အတူလောကီအားကျောခိုင်းခြင်းနှင့် အပြစ်ရှောင်ကြဉ်ခြင်းသည် အထမမြောက်ပေ။

ဟေဒါယဟ်ကျမ်းရှင် ရှိုင်ခ်ဘုရ်ဟာနွဒ္ဒီးန်ﷺက အချို့ပုဂ္ဂိုလ်များ၏ ကဗျာကို ကျွန်တော့်အား ရွတ်ပြခဲ့သည်။

**"အရှက်မဲ့သည့်အာလင်မ်သည်**
**ကြီးမားသည့်ပျက်စီးဆုံးရှုံးသူဖြစ်သော်လည်း**
**ခဝပ်ဆည်းကပ်နေသောမသိမိုက်မဲသည့်သူသည်**
**ပိုကြီးမားသည့်ပျက်စီးဆုံးရှုံးသူပင်ဖြစ်သည်။"**

ထိုသူနှစ်ဦးစလုံးသည် စကြာဝဠာအလုံးစုံတွင်ရှိသော သာသနာ အားဆုပ်ကိုင်နေသူအဖို့ ကြီးကျယ်သည့် အဖျက်အမှောင့်ကြီး ဖြစ်သည်။

ကျောင်းတော်သားသည် အသိပညာကိုအကြောင်းခံပြီး မိမိ၏ အသိဉာဏ်ကောင်းမှုနှင့် ခန္ဓာကိုယ်ကျန်းမာမှု၏ စည်းစိမ်အပေါ် ကျေးဇူးတင်ရန် ရည်စူးချက်ထားရမည်ဖြစ်သည်။ အသိပညာကြောင့် လူအများစုသည် မိမိကိုအာရုံစိုက်လာရန်၊ လောကီ၏ဥစ္စာပစ္စည်းများ ရရှိရန်၊ ရှင်ဘုရင်အုပ်ချုပ်သူများထံ၌ ဂုဏ်ပေးခံရရန် စသည့် လောကီ၏ရာထူးများအား အားကျသောရည်စူးချက်များ လုံးဝ မထားသင့်ပေ။ အေမာမ်မုဟမ္မဒ်ﷺ အမိန့်ရှိသည်။ အကယ်၍ လူသားအားလုံးသည် ကျွန်ုပ်ပိုင်ဆိုင်သောကျွန်များဖြစ်မည်ဆိုပါက ကျွန်ုပ်သည် အားလုံးကို သူကောင်းပြုပြီးထိုသူတို့၏မောင်ဝ်လာမုဝါလာသ် (သူကောင်းပြုသခင် အဖြစ်)မှကင်းစင်ကြောင်းပြောကြားလိုက်မည်ဖြစ်သည်။ အကြောင်းမှာ အိလ်မ်အသိပညာနှင့်ထိုအသိပညာကို လက်တွေ့လိုက်နာကျင့်သုံးခြင်း၏ အရသာခံစားဖူးသည့်သူသည် လူများထံ၌ရှိသော အရာများအား မက်မောမှုနည်းသွားသည်။

အေမာမ်အဘူဟနီဖွာဟ်ﷺအား ကဗျာတစ်ပုဒ်ကို နှုတ်တိုက် ခေါ်ပေးခဲ့သည့် ရှိုင်ခ်အေမာမ်ကြီး ကေဝါမွဒ္ဒီးန် ဟမ္မာဒ်အန်ဆွာရီ ﷺက ကျွန်ုပ်တို့အားကဗျာရွတ်ပြသည်။

"တမလွန်အရေးအတွက် သာသနာ့ပညာဆည်းပူးသူသည် ဖြောင့်မတ်မှန်ကန်သော လမ်းစဥ်ချီးမြှင့်ခံရပြီး အောင်မြင်သွားသည်။ ကျေးကျွန်

လူသားများထံမှချီးမြှင့်မြှောက်စားမှုရရှိရန် သင်ယူဆည်းပူးသည့်သူများ အတွက် အို!ဆုံးရှုံးရလေခြင်း။"

"သို့သော်ရာထူးကိုလိုလားခြင်း၏ ရည်ရွယ်ချက်မှာ ကောင်းရာညွှန်ကြား၊ မကောင်းမှုမြစ်တားရန်၊ အမှန်တရားကိုပြဋ္ဌာန်းရန်နှင့် သာသနာကို အင်အားတောင့်တင်းစေဖို့အတွက်ဖြစ်ပြီး မိမိ၏စိတ်တိုင်းကျ ပြုမူရန်မဟုတ်ခဲ့ပါမူ ကောင်းရာညွှန်ကြား၊ မကောင်းမှုမြစ်တားဆောင်ရွက်နိုင်လောက်မည့် အတိုင်းအတာသည်သာ ပိုင်သည်။"

သာသနာ့ပညာသင် ကျောင်းသားများသည် ဤကိစ္စရပ်များကို စဥ်းစားဆင်ခြင်၍ သတိချပ်သင့်သည်။ အကြောင်းမှာ ထိုကျောင်းသားသည် သာသနာ့ပညာကို ခက်ခဲမှုပေါင်း သောင်းခြောက်ထောင်နှင့် ဆည်းပူးခဲ့ရသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ကျောင်းသားများသည် သာသနာ့ပညာကို ပျက်စီးစေနိုင်မည့် မပြောပလောက်အောင် သေးသိမ်သော လောကီအတွက် မသုံးသင့်ပေ။

ဤလောကသည် အချည်းအနှီးအကျိုးမရှိဆုံးသောအရာ ဖြစ်သည်။သူမကိုချစ်သောသူသည်အသေးသိမ်ဆုံးသူပင်ဖြစ်သည်။ထိုလောကသည် သူမ၏ပရောဂဖြင့် လူတစ်စုကိုနားပင်းစေပြီး မျက်စိကန်းစေသည်။ထို့ကြောင့်ထိုသူများသည် အထောက်အထားမဲ့စွာ တွေဝေနေကြသည်။

သာသနာ့ပညာရှင်သည် ရိုကျိုးသောသူဖြစ်ရန်အတွက် လောဘမတက်ရမည့်နေရာများ၌ လောဘတက်ခြင်းဖြင့် မိမိကိုယ်မိမိသေးသိမ်

အောင် မလုပ်သင့်ရုံသာမက သာသနာ့ပညာနှင့် ပညာရှင်များအား သေးသိမ်စေမည့် ကိစ္စရပ်များမှလည်း ရှောင်ကြဉ်သင့်ပေသည်။ ရိုကျိုးခြင်းသည်မာနထားခြင်း၊သေးသိမ်ခြင်းနှင့် ခြောက်ပြစ်ကင်းသဲလဲစင်ဖြစ်ခြင်းတို့ အကြား၌ရှိသည့် ပေါင်းကူးတံတားပင်ဖြစ်သည်။ ဤအချက်သည် ကိုယ်ကျင့်တရားနှင့်သက်ဆိုင်သည့် စာအုပ်များတွင် ကျော်ကြားသည်။

ရွေးချယ်ခြင်းခံရသည့် စာပေအနုပညာဖန်တီးသူဟု ကျော်ကြားသော အေမာမ်ကြီးရှိုင်ခ်ရုက်နွလ်အစ္စလာမ်ﷺ က မိမိစပ်ဆိုထားသည့် ကဗျာအားရွတ်ဆိုပြသည်။

"ရိုကျိုးခြင်းသည် အပြစ်ရှောင်ကြဉ်သူ မွသ်သကီသူတော်စင်၏ နိမိတ်လက္ခဏာများထဲမှဖြစ်သည်။ အပြစ်ရှောင်ကြဉ်သူသည်ရို့ကျိုးမှုကြောင့်သာ မြင့်မားသော အဆင့်အတန်းများကို တက်လှမ်းရသည်။ လူသားသည် မိမိ၏လက်ရှိအခြေအနေ၌ မိမိသည် နဖူးစာကောင်းသူ လောသို့မဟုတ် နဖူးစာဆိုးသူလော သို့မဟုတ် မိမိ၏ဘဝနိဂုံး အဘယ်သို့ချုပ်ငြိမ်းမည်နည်း သို့မဟုတ် မိမိ၏ဝိဉာဉ်သည် ကေယာမသ် ကမ္ဘာ့တရားခွင်နေ့၌ အဆင့်အတန်းနိမ့်ပါးမည်လော၊ အဆင့်အတန်းမြင့်မားမည်လော စသည်တို့ကိုမသိရခြင်းသည် အံ့သြခြင်းများစွာထဲမှ အံ့သြစရာကောင်းသော အချက်ပင်ဖြစ်သည်။ ဂုဏ်မောက်ခြင်းသည် ကျွန်ုပ်တို့ကို အဆင့်ဆင့်ဖန်ဆင်းမွေးမြူစောင့်ရှောက်တော်မူသော အရှင်မြတ်တစ်ဦးတည်းနှင့်သာ သီးသန့်ဖြစ်သော ဝိသေသဖြစ်သည်။ သို့ရှိရာ

အသင်သည် ထိုဂုဏ်မောက်ခြင်းကို ရှောင်ကြဥ်ပြီး အပြစ်ရှောင်ကြဥ်ခြင်းတရားကို မွေးမြူပါ။

အေမာမ်အဘူဟာနီဖဟ်ﷺကမိမိ၏တပည့်များကို မိန့်သည်မှာ- အသင်တို့သည် မိမိတို့၏ခေါင်းပေါင်းများကို ဂုဏ်ပေးလေးစားကြပါ။ ၎င်းနောက် မိမိတို့၏ အင်္ကျီလက်ဖတ်များကို ကျယ်ဝန်းစွာထားကြပါ။ ဤသို့ အမိန့်ရှိခြင်းမှာ သာသနာ့ပညာနှင့် သာသနာ့ပညာရှင်များအား အထင်အမြင်မသေးရလေအောင်ဖြစ်သည်။ကျောင်းသားသည် အေမာမ်အဘူဟာနီဖွာဟ်ﷺက အေမာမ်ယူနွတ်စ်ဗင်န်ခါလိဒ်စမ်သီ ﷺ အတွက် မိမိ၏အိမ်သူအိမ်သားများထံပြန်ချိန်၌ ရေးသားပေးခဲ့သော မှာတမ်းစာအုပ်ကိုအရယူသင့်သည်။မှတ်သားသင့်သည်။ ထိုစာအုပ်ကို လေ့လာသူသည်အကျိုးခံစားရမည်။ ကျွန်ုပ်၏ဆရာရှိုင်ခွလ်အစ္စလာမ်ဘုရ်ဟာနွလ်အအင်မ်မဟ်အလီဗင်န်အဘီဘက်ရ်ﷺက အလ္လာဟ်ရှင်ဆရာသခင်ကြီး၏ မွန်မြတ်လှသောဝိညာဥ်တော်ကို ဂုဏ်သိက္ခာ ကွန့်မြူးစေတော်မူပါ-အာမီးန်။ကျွန်ုပ်အားမိမိရပ်ရွာပြန်ချိန်၌ ဤစာအုပ်ရေးရန်အမိန့်ပေးခဲ့ရာ ကျွန်ုပ်သည် ထိုစာအုပ်ကို ရေးသားခဲ့သည်။ ဆရာနှင့်လူသားရေးရာကိစ္စများဆောင်ရွက်နေသည့် မွဖ်သီအဖို့ ထိုစာအုပ်သည် မရှိမဖြစ် လိုအပ်သည့် အရေးကြီးသောစာအုပ်ပင်ဖြစ်သည်။



## အခန်း (၃)

## အိလ်မ်၊ ဆရာ၊ သူငယ်ချင်းနှင့် တည်မြဲမှုကို ရွေးချယ်ခြင်း

ကျောင်းသားသည် မိမိကိုယ်ကို အကောင်းဆုံးဖြစ်စေမည့် ပညာရပ်များကို ရွေးချယ်သင့်သည်။ လတ်တလောအခြေအနေ၌ လိုအပ်နေသည့် သာသနာရေးကိစ္စရပ်နှင့် နိဂုံး၌ လိုအပ်မည့်အရာကိုသာ ရွေးချယ်သင့်သည်။ သို့ရှိရာ ကျောင်းသားသည် (သောင်ဟီးဒ်--- တစ်ပါးတည်းသောအရှင်ကို ကိုးကွယ်ခြင်း)နှင့် အလ္လာဟ်အရှင်မြတ်ကိုသိရှိခြင်း ပညာရပ်ကို ဦးစားပေးရမည်ဖြစ်သည်။ ကျောင်းသားသည် အလ္လာဟ်အရှင်မြတ်ကို အထောက်အထားဖြင့်သာ သိရှိနိုင်မည်ဖြစ်သည်။ မုကလ္လိဒ်ခေါ်နောက်လိုက်သူ၏ ယုံကြည်ချက်သည် ကျွန်ုပ်တို့ထံ၌ မှန်ကန်နေလင့်ကစား အထောက်အထားယူရမည့် အကြောင်းတရားကို စွန့်လွှတ်ခြင်းဖြင့် ထိုသူသည် အပြစ်ကျူးလွန်သူ ဖြစ်သွားမည်။ ထိုကျောင်းသားသည်ပညာရှင်များကမှန်ကန်ကြောင်း တစ်ညီတစ်ညွတ်တည်းဆုံးဖြတ်ထားသည့် ဂန္ထဝင်အမိန့်များကိုသာ ရွေးချယ်ရမည်။ သာသနာ့ဘောင်အပြင်မှအသစ်တီထွင်ထားသည့် ဆန်းသစ်တီထွင်မှုများကို လွှတ်ထားရမည်။ပညာရှင်များမိန့်ကြသည်မှာ-အသင်တို့သည် ခိုင်ခိုင်မာမာရှိသည့် ရှေးယခင်က စနစ်ကိုပဲ လက်ဆုပ်လက်ကိုင်ပြုထားကြပါ။ အသင်တို့သည်အသစ်တီထွင်ထားသည့် စနစ်သစ်များမှ ရှောင်ကြဉ်ကြပါ။ အသင်သည် သာသနာ့ပညာရှင်အကြီးအကဲများ တိမ်ကောပျောက်ကွယ်ပြီး

နောက် သာသနာတော်နှင့်ဆန့်ကျင်သော အသစ်ပေါ်ပေါက်လာသည့် ပြဿနာများတွင် မွေ့လျော်ခြင်းကို ရှောင်ကြဉ်ရမည်။ ထိုအရာများ၌ မွေ့လျော်ခြင်းသည်ကျောင်းသားကိုအသိဆုံးရှုံးစေရုံသာမက သက်တမ်း တိုစေသည်။ အထီးကျန်မှု၊ရန်လိုမှုဖြစ်စေသည်။ ထိုသို့အသိပညာဆုံးရှုံး ခြင်း၊ သာသနာ့ပညာတိမ်ကောပျောက်ကွယ်ခြင်းသည် ဟဒီးဆ်တော်၌ လာရှိထားသည့်အတိုင်း ကေယာမသ်၏နိမိတ်လက္ခဏာများထဲမှ တစ်ခု အပါအဝင်ဖြစ်သည်။ ဟဇရသ်အိဗ်နုမတ်စ်အူးဒ်ﷺသခင်ထံမှ ဆင့်ပြန် ချက်လာရှိသည်။ကိုယ်တော်သခင်ﷺမိန့်တော်သည်မှာ-အသင်တို့သည် အသိပညာ ရုပ်သိမ်းခြင်း မခံရမီအလျင် သင်ယူကြပါ။ အကြောင်းမှာ အသင်တို့ထဲမှ တစ်ဦးတစ်ယောက်သည် မိမိထံ၌ ရှိသည့်အရာကို မည်သည့်အချိန်၌ လိုအပ်လာမည်ကိုမသိရပေ။ အသင်တို့ သာသနာ့ ပညာကို အလေးထား သင်ယူကြပါ။ အသင်တို့သည်အသစ်တီထွင် ထားသောအရာမှရှောင်ကြဉ်ပြီး ခိုင်မာသောပညာရေးကိုသာ အာရုံစိုက် ကြပါ။

ဆရာရွေးချယ်ခြင်းနှင့်ပတ်သက်ပြီးပြောရမည်ဆိုလျှင်အေမာမ် အဘူဟနီဖ္ဖာဟ်ﷺက သေချာစဥ်းစားပြီးနောက် ဟဇရသ်ဟမ္မာဒ်ဗင်န် ဆိုလိုင်မာန်ﷺကိုရွေးချယ်ခဲ့သည့်အတိုင်းကျောင်းသားကလည်း အသိပ ညာအရှိဆုံး သက္ကဝါအရှိဆုံး သမ္ဘာရင့်ဝါရင့်ဆရာ ကိုရွေးချယ်သင့်သည်။

အေမာမ်အဘူဟာနီဖွာဟ်ﷺ ကအမိန့်ရှိသည်မှာ- ကျွန်တော်သည် ဟဇရတ်ဟမ္မားဒ်ကို အလွန်အင်မတန်ခန့်ညားကောင်းသော တည်ငြိမ်သော ပုဂ္ဂိုလ်အဖြစ်နှင့် တွေ့ခဲ့သည်။ ဆက်လက်ပြီး အမိန့်ရှိသည်မှာ ကျွန်ုပ်သည် ဟဇရတ်ဟမ္မားဒ်ဗင်န်ဆိုလိုင်မာန်ﷺ ထံ၌ အတည်တကျနေပြီးနောက် ပညာတိုးတက်လာခဲ့သည်။

ကျမ်းရှင်ﷺက ပြောပြသည်။ ကျွန်တော်သည် စမရ်ကန်ဒ်၏ သုခမိန်များထဲမှ သုခမိန်တစ်ယောက်မိန့်သည်ကို ကြားခဲ့သည်။ ပညာသင်ယူရန်အတွက် ဗိုခါရာမြို့သို့သွားရန် ဆုံးဖြတ်ထားသည့် ကျောင်းသားတစ်ယောက်သည် ကျွန်တော်နှင့် တိုင်ပင်ဆွေးနွေးခဲ့သည်။ ထိုနည်းတူစွာ ကိစ္စရပ်တိုင်း၌ မိမိတို့၏ ဆရာများနှင့် တိုင်ပင်သင့်သည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်သည် မိမိ၏ရစူလ်အား ကိစ္စရပ်တိုင်း၌ တိုင်ပင်ရန်အမိန့်ပေးထားသည်။ ကိုယ်တော်သခင်ﷺ ထက် ပိုပြီးသိရှိနားလည်သူ တစ်ဦးတစ်ယောက်မှ မရှိသော်လည်း ကိုယ်တော်ﷺသခင်သည်တိုင်ပင်ရန် အမိန့်ပေးခံခဲ့ရသည်။ ထို့ကြောင့် ကိုယ်တော်သခင်ﷺသည် ကိစ္စရပ်တိုင်း၌ တိုင်ပင်ဆွေးနွေးခဲ့သည်။ ယုတ်စွအဆုံး မိမိ အိမ်၏လိုအပ်ချက်များကိုပင် တိုင်ပင်ဆွေးနွေးခဲ့သည်။

ဟဇရတ်အလီﷺမိန့်တော်မူသည်မှာ- ဆွေးနွေးတိုင်ပင်၍ ပျက်စီးဆုံးရှုံးသူဟူ၍မရှိချေ။လူသားသည်သုံးမျိုးသုံးစားရှိသည်။ လူသားစံညွှန်းပြည့်မီသည့်သူ၊လူသားစံညွှန်းတစ်ဝက်ပြည့်မီသည့်သူနှင့် လူသားစံညွှန်း

အနည်းငယ်မျှမရှိသည့်သူဟူ၍ဖြစ်သည်။ လူသားစံညွှန်း ပြည့်မီသောသူ ဆိုသည်မှာမှန်ကန်သော အတွေးအခေါ်ရှိပြီး တိုင်ပင်ဆွေးနွေးသောသူ ဖြစ်သည်။ လူသားစံညွှန်းတစ်ဝက်ပြည့်မီသောသူဆိုသည်မှာ မှန်ကန် သောအတွေးအခေါ်ရှိသော်လည်း ဆွေးနွေးတိုင်ပင်ခြင်းမရှိသောသူ ဖြစ် ပြီးနောက်ဆုံးအမျိုးအစားဖြစ်သော လူသားစံညွှန်းမရှိသည့်သူဆိုသည် မှာ မှန်ကန်သောအတွေးအခေါ် မရှိရုံသာမက ဆွေးနွေးတိုင်ပင်ခြင်း လည်း မရှိသည့်သူဖြစ်သည်။

ဟဇရသ်ဂျအ်ဖရ်ဆွာဒီက်ﷺက အေမာမ်စွဖ်ယာန်း စောင်ဝ်ရီﷺအား အမိန့်ရှိသည်မှာ- "အသင်သည် မိမိ၏ အရေးကိစ္စရပ်နှင့်ပတ် သက်၍ အလ္လာဟ်အရှင်မြတ်ကိုကြောက်ရွံ့သောသူများနှင့် တိုင်ပင်ပါ။ သာသနာ့ပညာသင်ယူခြင်းသည် အမြင့်မားဆုံး၊အခက်ခဲဆုံးကိစ္စရပ်များ ထဲမှ ဖြစ်သည်။

ထို့ကြောင့် သာသနာ့ပညာသင်ကြားခြင်း ကိစ္စရပ်၌ တိုင်ပင်ခြင်း သည်အရေးကြီးဆုံးအခန်းကဏ္ဍတစ်ရပ်ဖြစ်လာခဲ့သည်။

သုခမိန်ကြီး ဟကီးမ် ﷺကမိန့်သည်မှာ- "အသင်ဗုခါရာကို သွား ပြီဆိုလျှင် ပညာရှင်အသီးသီးထံမှ သင်ယူမှုကို အစောတလျင် မပြုလုပ် ပါနှင့်။ ဆရာရွေးချယ်ရန်အတွက် အသင်နှစ်လစဥ်းစားပါ။ အသင် ရွေးချယ်သည့် ဆရာကို စွန့်လွှတ်ကျောခိုင်းစရာ မလိုရလေအောင် အသင်အကြံဉာဏ် တောင်းပါ။ ထိုဆရာ့ထံ၌သာ အသင့်၏သင်ကြားမှု မင်္ဂလာပြည့်ဝလာသည်အထိ အပြည့်အဝနေပါ။ အသင်၏အသိပညာ

နှင့် အကျိုးများစွာခံစားလာရသည်အထိ အသင်အပြည့်အဝနေပါ။ ထို့ကြောင့်အသင်သည် ထိုမြို့၌ နှစ်လအရင်နေပြီး သေချာစူးစမ်းပြီးမှ ဆရာရွေးချယ်ပါ။သို့မှသာအသင့်ပညာရေး၌မင်္ဂလာရှိနေမည်ဖြစ်သည်။ အသင်မှတ်ထားရမှာတစ်ခုက **သည်းခံခြင်းနှင့် တည်မြဲခြင်းသည်** ကိစ္စရပ်တိုင်း၌ အဓိကအခရာကျသည့် အရာများ ပင်ဖြစ်သည်။ သို့သော် ထိုအရာနှစ်ခုကိုလုပ်ရန် အင်မတန်ခက်ခဲသည်။ အောက်ပါကဗျာတွင် စပ်ဆိုထားသကဲ့သို့ဖြစ်သည်။ **"အားလုံးသည်မြင့်မားသော အဆင့်ကို တက်လှမ်းနိုင်ဖို့ လှုပ်ရှားမှုများစွာ လုပ်ရသည်။ သို့သော် အမျိုးသားများ ထဲ၌ တည်မြဲမှု ရှားပါးသည်။"**

အချို့ပညာရှင်များကပြောကြသည်မှာ “ရဲရင့်မှုသည် ခဏတာ သည်းခံခြင်းပင် ဖြစ်သည်။ ထို့ကြောင့် ကျောင်းသားသည် ဆရာ တစ်ယောက်တည်းနှင့်သာ သည်းခံပြီးသင်ယူရမည်။ စွန့်လွှတ်ပါက လျှော့နည်းမှုဖြစ်စေမည့်စာအုပ်တစ်အုပ်ထဲကိုသာ သည်းခံလေ့လာသင့် သည်။ ပထမဘာသာရပ်မခိုင်မာမီအလျှင် နောက်ဘာသာရပ်ကို အာရုံ မစိုက်ဘဲပထမဘာသာရပ်အပေါ်၌သာသည်းခံ၍ခိုင်မာအောင် လုပ်သင့် သည်။လိုအပ်ချက်မရှိပါက နောက်မြို့တစ်မြို့ကို မပြောင်းဘဲ ပထမမြို့ ၌သာ နေသင့်သည်။ ဤအချက်များအားလုံးသည် အလုပ်ကိစ္စတိုင်းကို အစိတ်စိတ်အမွှာမွှာဖြစ်စေပြီး နှလုံးသားကို အာရုံများစေသည်။ အချိန် ကုန်စေရုံသာမက သင်ကြားပေးသောဆရာကိုပါ ဒုက္ခရောက်စေသည်။

ကျောင်းသားသည် မိမိစိတ်ကလိုလားသည့်အရာကိုသာ သည်းခံလေ့လာသင့်သည်။

ကဗျာဆရာတစ်ဦးက ကဗျာရွတ်ဆိုသည်မှာ-

**"စိတ်ရိုင်းသည် ပင်ကိုယ်အရ သေးသိမ်သည်။**

**စိတ်ရိုင်းကို သဂြိုလ်ခြင်းသည် သေးသိမ်မှုကို သဂြိုလ်ခြင်းဖြစ်သည်။"**

ကျောင်းသားသည် အခက်အခဲဒုက္ခများကို ကြံ့ကြံ့ခံနိုင်ရမည်။ အချို့ကပြောကြသည်မှာ-အကျိုးရလဒ်များ၏ ဘဏ္ဍာတိုက်များသည် အခက်အခဲများစွာ၏ အပေါ်တွင်မူတည်နေသည်။

ပညာရှင်များက ဟဇရသ်အလီ၏ မိန့်မှာချက်ကို ပြောပြကြသည်မှာ- "သတိချပ်ကြပါ။ (၆)ခုသောအရာဖြင့်သာ အိလ်မ်သာသနာ့ပညာကိုရရှိမည်ဖြစ်သည်။ထိုအရာများမှာ



၁။ ဉာဏ်ရည်ထက်မြက်ခြင်း၊

၂။ ပညာအပေါ်လိုလားရမ္မက်ကြီးခြင်း၊

၃။ သည်းခံခြင်း၊

၄။ ရည်မှန်းချက် ကြီးမားခြင်း

၅။ ဆရာ၏လမ်းညွှန်မှုခံယူခြင်း၊

၆။ အချိန်များစွာပေးခြင်းတို့ဖြစ်သည်။

**အတန်းဖော်သူငယ်ချင်းရွေးချယ်ခြင်း**ဆိုသည်မှာ- ကြိုးစားသောသူ၊ သက္ကဝါတရားဆုပ်ကိုင်ထားသူ၊ ဖြောင့်မတ်မှန်ကန်သောဗီဇရှင်ကို ရွေး

ချယ်ရမည်ဖြစ်သည်။ ပျင်းရိသောသူ၊ စကားအလွန်များသူ၊ ဖျက်လို့ ဖျက်ဆီးလုပ်သူနှင့် ပြဿနာအလွန်ရှာသူများကို ရှောင်ကြဉ်ရမည်။

ကဗျာဆရာတစ်ဦးက ဤကဲ့သို့ ကဗျာစပ်ဆိုခဲ့သည်-

**"ဒီလူဘယ်သူလဲ မမေးနဲ့။ သူပေါင်းသည့် သူကိုပဲကြည့်။ ဘယ်သူနဲ့ ပေါင်းလဲ သူ့နောက်လိုက်စမြဲပဲ။ သူကဆိုးတဲ့သူဆို အမြန်ခွဲခွာလိုက်။ သူကကောင်းတဲ့သူဆို သူနဲ့တပူးတတွဲနေလိုက်။ အသင်လမ်းမှန်ရမယ်။**

အဗူဗက်ရ်ခိုဝါရာဇ်မီက ဤကဲ့သို့ ကဗျာစပ်ဆိုခဲ့သည်။

**"အခြေအနေအသီးသီး၌ ပျင်းရိမှုကို အဖော်မွန်မလုပ်နဲ့။ များစွာသော မွန်မြတ်သည့်သူများသည် အခြားသူများ၏ ဖျက်ဆီးမှုကြောင့် ပျက်စီးကြရသည်သာ။ မီးခဲကို ပြာထဲထည့်လျှင် ချက်ချင်း မီးငြိမ်းသွားသလိုပဲ ငတုံး၏ ကူးစက်မှုသည် အားအင်ရှိသူထံ အလျင်အမြန် ရောက်သည်။**

ကိုယ်တော်သခင်ﷺအမိန့်ရှိတော်မူသည်မှာ-

မွေးလာသမျှ လူတိုင်းသည် အစ္စလာမ်သာသနာ၏ သဘောသဘာဝ အပေါ်၌သာ မွေးလာကြသည်။ သို့သော် သူ့မိဘနှစ်ပါးက သူ့ကို ယဟူဒီဇာတ်သွင်းကြသည်။ (သို့) နဆွ်ရာနီဇာတ်သွင်းကြသည်။ (သို့)မဂျူစီဇာတ်သွင်းကြသည်။(ဟဒီးဆ်)

အလ်ဟိကမ်မသ်ကျမ်းထဲ၌ဖာရစီကဗျာလာရှိသည်။ အဓိပ္ပာယ်မှာ-

**"မကောင်းသောမိတ်ဆွေသည် မြွေနက်ထက်ပင်**
**ပိုဆိုးရွံမှုသာမကပို၍ပင် ဒုက္ခပေးနိုင်သည်။**

အချို့ပညာရှင်များက ကဗျာစပ်ဆိုကြသည်။

**"အသင်သည် ပညာရှင်များထံမှ ပညာရှာဖွေဆည်းပူးသည့်သူ (သို့) အသင့်အသိဥာဏ်မှ ကွယ်နေသောအရာကို သတင်းပေးသောသူဖြစ်မည်ဆိုလျှင် မြေပထဝီကို သူ့အနေအထားပေါ်မူတည်ပြီး အကောင်းအဆိုးဆုံးဖြတ်သလို လူကိုလည်း သူပေါင်းသည့်သူကို ကြည့်၍ ဆုံးဖြတ်ပါ။**



## အခန်း (၄)

## သာသနာ့ပညာနှင့် သာသနာ့ပညာရှင်များကို ဂုဏ်ပေးလေးစားခြင်း

**အသင်မှတ်ထားပါလေ......**

ကျောင်းသားသည် သာသနာ့ပညာ၊ သာသနာ့ပညာရှင်များနှင့် ဆရာများအား ဂုဏ်ပေးလေးစားမှသာ သာသနာ့ပညာကိုရရှိပြီး အကျိုးခံစားနိုင်မည်ဖြစ်သည်။ ပညာရှင်များကပြောကြသည်မှာ----- "အမြင့်ရောက်တဲ့သူ အမြင့်ရောက်နေခြင်းသည် **ဂုဏ်ပေးလေးစားခြင်း**ကြောင့်ဖြစ်သည်။" "ပြုတ်ကျကျန်ခဲ့သူ ပြုတ်ကျကျန်နေခြင်းသည် ဂုဏ်ပေးလေးစားမှု**မရှိခြင်း**ကြောင့်ဖြစ်သည်။"

ပညာရှင်များပြောကြသည်မှာ----- ဂုဏ်ပေးလေးစားခြင်းသည် အမိန့်နာခံခြင်းထက် သာပိုကောင်းမွန်သည်။ လူသားသည် အပြစ်ကျူးလွန်ခြင်းကြောင့် ကာဖိရ်မဖြစ်ဘဲ ထိုအပြစ်ကို ဂရုမစိုက်ခြင်း၊ အထင်

သေးခြင်းကြောင့်သာ ကာဖိရ်ဖြစ်သည်ကို အသင်မသိမြင်လေသလော။ ဆရာအားဂုဏ်ပေးလေးစားမှုသည် သာသနာ့ပညာကို ဂုဏ်ပေးလေး စားခြင်းထဲမှ ဖြစ်သည်။ ဟဇရသ်အလီ ﷺ အမိန့်ရှိသည်မှာ-ကျွန်ုပ်သည် မိမိအား စာလုံးတစ်လုံးမျှပင် သင်ပေးသောသူ၏ ကျွန်သဖွယ် ဖြစ်သည်။ ထိုသူရောင်းချင်ပါက ရောင်းနိုင်သည်။ သူကောင်းပြုလိုပါက ပြုနိုင် သည်။ ကျွန်အဖြစ် သတ်မှတ်လိုပါက သတ်မှတ်နိုင်သည်။ ကျမ်းရှင်က ကျွန်တော် သည် ထိုအချင်းအရာနှင့် ပတ်သက်ပြီး ကဗျာတစ်ပုဒ်ကို ရွတ်ပြခဲ့သည်။" အထိုက်သက်ဆုံးဝတ္တရားမှာဆရာ့၏ဝတ္တရားဟု ကျွန်ုပ် မြင်ပြီးထိုဝတ္တရားကိုထိန်းသိမ်းရန်မွတ်စ်လင်မ်တိုင်း အရေးကြီးသည်ဟု မြင်သည်။ ဆရာသင်ပေးခဲ့သော စာလုံးတစ်လုံးအတွက် ဂုဏ်ပေးလေး စားသည့်အနေဖြင့် ဒိရ်ဟမ်ငွေဒင်္ဂါးတစ်ထောင် ချီးမြှင့်ရန် ထိုက်သက် သည်။သာသနာရေးကိစ္စ၌အသင်လိုအပ်သောစာလုံးတစ်လုံး သင်ပေးခဲ့ သည့် ပုဂ္ဂိုလ်သည် သာသနာရေးအရ အသင့်ဖခင်သဖွယ်ဖြစ် သည်။ ကျွန်ုပ်တို့၏ဆရာရှိုင်ခ်အေမာမ်စဒီဒွဒ္ဒီးန်ရှီရာဇီ ﵀ ကပြောလေ့ရှိသည် မှာ- ကျွန်ုပ်တို့၏ဆရာသခင်ကြီးများ အမိန့်ရှိသည်။ "အကြင်သူသည် မိမိ၏သားအားသာသနာ့ပညာရှင်ဖြစ်စေချင်ပါမူ ဖွေကဟ်ပညာ့ရှင်များ ထဲမှ ဆင်းရဲသားများကို စောင့်ရှောက်သင့်သည်။ ဂုဏ်ပေးလေးစားသင့် သည်။ အစားအစာကျွေးမွေးသင့်ပြီး ပေးကမ်းစောင့်ရှောက်သင့်သည်။ အကယ်၍သူ့သားသည် အာလင်မ်မဖြစ်ခဲ့ပါမူသူ့မြေးသည်မုချအာလင်မ် ဖြစ်မည်။ ဆရာရှေ့မှ လမ်းမလျှောက်ခြင်း၊ ဆရာ့နေရာ၌ မထိုင်ခြင်း၊

ဆရာ့ခွင့်ပြုချက်ဖြင့်သာ စကားစပြောခြင်း၊ဆရာ့ထံ၌ စကားများများ မပြောခြင်း၊ဆရာငြီးငွေ့နေသောအချိန်၌ ဘယ်အရာမှမမေးခြင်း၊ အချိန်ကိုအလေးထားခြင်း၊ဆရာ့အိမ်တံခါးကို မခေါက်ခြင်း၊သို့သာမက ဆရာထွက်လာသည်အထိသည်းခံ၍စောင့်ခြင်းစသည့်အချက်များသည် ဆရာ့အား ဂုဏ်ပေးလေးစားခြင်းထဲမှ ဖြစ်သည်။ အချုပ်ဆိုရသော် ဆရာ၏ ကျေနပ်နှစ်သက်မှုကိုသာ ရှာဖွေပြီး ဆရာ၏ စိတ်ဆိုးဒေါသထွက်မှုမှ ရှောင်ကြဉ်ရမည်။ အလ္လာဟ်အရှင်မြတ်၏ အမိန့်ဖီဆန်မှု မရှိသောကိစ္စ၌ ဆရာ့အမိန့်နာခံရမည်။အကြောင်းမှာ ဖန်ဆင်းရှင် အမိန့်ဖီဆန်နေသောကိစ္စ၌ ဖန်ဆင်းခံ၏အမိန့် နာခံစရာမလိုပေဟူသော ကိုယ်တော်သခင် ﷺ၏မိန့်ကြားချက်အတိုင်းဖြစ်သည်။ အဆိုးရွားဆုံးသောသူသည်မိမိ၏ သာသနာကို အခြားသူ၏ လောကီအတွက် ဖျက်ဆီးသောသူသာဖြစ်သည်။ ဆရာ၏သားသမီးများ၊ ဆရာနှင့်ဆက်နွယ်သူများကို ဂုဏ်ပေးလေးစားခြင်းသည် ဆရာ့အား ဂုဏ်ပေးလေးစားခြင်းမည်သည်။ ကျွန်ုပ်တို့၏ဆရာရှိုင်ခွလ်အစ္စလာမ်ဘုရ်ဟာနွဒ္ဒီးန် ﷺက ဤအကြောင်းအရာအား ပြောလေ့ရှိသည်။ ဗုခါရာမြို့၏ အေမာမ်ကြီးသည်သင်ခန်းစာသင်ကြားရာ၌ ထိုင်သင်လေ့ရှိသော်လည်း တစ်ခါတစ်ရံ ထလေ့ရှိရာ ထိုင်ဝိုင်း၌ရှိသော ပုဂ္ဂိုလ်များသည် ထိုကိစ္စအားမေးကြသည်။ ထိုအခါ အေမာမ်ကြီးက ပြောပြသည်။ ကျွန်တော့်ဆရာ၏သားသည် ကလေးများနှင့်အတူ ဆော့ကစားနေပြီး တစ်ခါတစ်ရံ ဗလီ၏ တံခါးအဝနားသို့ ရောက်လာလေ့ရှိရာ ကျွန်တော်သည် သူ့ကိုမြင်သောအခါ ဆရာ့အား

ဂုဏ်ပေးလေးစားသည့်အနေဖြင့် ထိုကလေးအတွက် မတ်တပ်ရပ်ပေးခြင်းဖြစ်သည်။

မရ်ဝ်မြို့၌ရှိသော (အေမာမ်ကြီးကာသွီအဖခ်ရွဒ္ဒီးန်အရ်စာဗန်ဒီ) အား ဘုရင်ကြီးသည် အလွန်ပင်ဂုဏ်ပေးလေးစားသည်။ ဆရာကြီးက မိန့်သည်။ ကျွန်ုပ်အား ဤအဆင့်အတန်းကို ချီးမြှင့်ခြင်းခံခဲ့ရသည်မှာ ကျွန်ုပ်သည်ဆရာအား အလုပ်အကျွေးပြုစုမှုကြောင့် ဖြစ်သည်။ ကျွန်ုပ်၏ဆရာဖြစ်သူ ရှိုင်ခ်ကာသွီအဘူယဇီးဒ်ဒဘူစီ ﷺအား အမြဲအလုပ်အကျွေးပြုခဲ့သည်။ ကျွန်တော်သည် နှစ်ပေါင်း(၃၀) တိုင်တိုင် ဆရာစားသုံးမည့် အစားအစာကို ချက်ပြုတ်ပေးခဲ့သော်လည်း ထိုအစားအစာထဲမှ မည်သည့်အရာကိုမှ မစားသုံးခဲ့ချေ။

ရှိုင်ခ်အေမာမ်ရှမ်စွလ်အအင်မ်မဟ်ဟလ်ဝါနီ ﷺက ဗုခါရာမြို့မှ ထွက်သွားခဲ့သည်။ ၎င်းနောက် ရတ်တရက် ကြုံကြိုက်လာသည့် အကြောင်းကိစ္စ တစ်ခုကြောင့် ရွာအချို့၌ နေထိုင်ခဲ့ရာ ရှိုင်ခ်ကာသွီ ရှမ်စွလ်အအင်မ်မာဟ်ဇရ်နူဂျီမှတစ်ပါး ကျန်တပည့်များအားလုံး ဆရာကြီးအား လာတွေ့ခဲ့သည်။ ဆရာကြီးသည် ထိုတပည့်နှင့်ဆုံသောအခါ အသင်သည် အဘယ်ကြောင့် ကျွန်ုပ်အားလာမတွေ့ခဲ့သနည်း ဟုမေးရာ တပည့်ကကျွန်တော်သည် မိခင်ကြီးအား အလုပ်အကျွေးပြုစုနေသောကြောင့်ဖြစ်သည်ဟု ဖြေကြားခဲ့သည်။ ထိုအခါ ဆရာကြီးက အသင်၏သက်တမ်း၌ မင်္ဂလာချီးမြှင့်ခံရပြီး သင်ခန်းစာ၏ လင်းရောင်ခြည်တော့ ချီးမြှင့်မခံရပေဟုမိန့်သည်။ ထိုအတိုင်းပင်ဖြစ်ခဲ့သည်။ ထိုတပည့်သည်

မိမိအချိန်အများစုအား ရှာဥ္ဆသာကုန်ဆုံးခဲ့ရပြီး သင်ခန်းစာအတွက် အချိန်မရခဲ့ပေ။ ဆရာ့အား ဒုက္ခပေးသူသည် သာသနာ့ပညာ၏ မင်္ဂလာ ရုပ်သိမ်းခြင်းခံရမည်။ သာသနာ့ပညာမှ အကျိုးအနည်းငယ်သာ ခံစားရ မည်ဖြစ်သည်။

ဆရာနှင့် ဆရာဝန်နှစ်ဦးစလုံးသည် ထိုက်သက်သောဂုဏ်ပေး လေးစားခြင်းမခံရပါက ထိုက်သင့်သလောက် အကောင်းပြုမည့်သူနှစ်ဦး မဟုတ်ပေ။ အသင်သည် ဆရာဝန်ထံပြသောအခါ မချေမင်ဆက်ဆံ ချင်လင့်ကစား အသင့်ရောဂါအတွက် သည်းခံမျိုသိပ်ပါ။ ဆရာ့ထံ သွား သောအခါ မချေမင်ဆက်ဆံချင်လင့်ကစား အသင်၏ မသိမိုက်မဲမှု ပပျောက်စေရန် နှုတ်ဆိတ်နေပါ။

ခလီဖ္ဖာဟ်ကြီးဟာရွန်းရရှီးဒ်သည် မိမိ၏သားအား အတ်ဆ္မအီ သခင်ထံပညာနှင့်ယဉ်ကျေးမှုကိုသင်ယူရန်စေလွှတ်ခဲ့ခြင်းနှင့် ပတ်သက် ပြီးအကြောင်းအရာတစ်ခု ပြောပြခံခဲ့ရသည်။ တစ်ရက် ခလီဖ္ဖာဟ်ကြီး သည် အတ်ဆ္မအီသခင့်အား ဝူသူပြုနေခိုက် မိမိခြေထောက်အား ကိုယ်တိုင်ဆေးနေလျက်ရှိသည်ကိုတွေ့ခဲ့ပြီးခလီဖ္ဖာဟ်ကြီး၏ သားသည် အတ်ဆ္မအီသခင်ကြီး၏ခြေထောက်အား ရေလောင်းပေးလျက်သာရှိ သည်ကို မြင်တွေ့သည့်အခါ အတ်ဆ္မအီသခင့်အား ထိုကိစ္စနှင့် ပတ် သက်၍ပြစ်တင်ရှုံ့ချခဲ့သည်။ခလီဖ္ဖာဟ်ကြီးက ကျွန်ုပ်သည် မိမိ၏သား အားအသင့်ထံစေလွှတ်ခဲ့သည်မှာ-ပညာနှင့်ယဉ်ကျေးမှု သင်ပေးရန်ဖြစ် သည်။ အဘယ်အတွက်ကြောင့်အသင်သည် သူ့အားလက်တစ်ဖက်ဖြင့်

ရေလောင်းခိုင်း၍ကျန်လက်တစ်ဖက်ဖြင့် အသင့်ခြေထောက်အား ဆေးရန် အမိန့်မပေးခဲ့ပါသနည်းဟု ပြစ်တင်ခဲ့သည်။

စာအုပ်ကို ရိုသေခြင်းသည် ဆရာ့ အားရိုသေခြင်း မည်သည်။ ကျောင်းသားသည် စာအုပ်ကို ဝူသျူဖြင့်သာ ကိုင်တွယ်ရမည်။ ရှိုင်ခ်ရှမ်စွလ်အအင်မ်မဟ်ဟလ်ဝါနီﷺထံမှ ဤအကြောင်းအရာကို ကြားခဲ့ရသည်။ ဆရာကြီးက ပြောပြသည်မှာ- ကျွန်ုပ်သည် ဤသာသနာ့ ပညာအား ဂုဏ်ပေးလေးစားခြင်းကြောင့်သာ ရခဲ့သည်။ အကြောင်းမှာ ကျွန်ုပ်သည် ကျမ်းစာအုပ်ကို ဝူသျူဖြင့်သာ ကိုင်ခဲ့သည်။ ရှိုင်ခ်အေမာမ် ရှမ်စွလ်အအင်မ်မဟ်စရခ်စီﷺသည် ဝမ်းရောဂါရှိသူဖြစ်သည်။ ဆရာကြီးသည် တစ်ညသို့ သင်ခန်းစာဆွေးနွေးဝိုင်း လုပ်ခဲ့ရာ ထိုည၌ပင် ဝူသျူ(၁၇)ကြိမ်ပြုလုပ်ခဲ့သည်။ ဤသို့လုပ်ရခြင်းမှာသာသနာ့ပညာသည် နူးရ်ရောင်ခြည်တော်ဖြစ်ပြီးဝူသျူသည်လည်း နူးရ်ရောင်ခြည်တော် ဖြစ်သောကြောင့်ဖြစ်သည်။ ထိုသို့ဝူသျူလုပ်ခြင်းကြောင့် နူးရ်ရောင်ခြည်တော်သည် ပို၍ တိုးသွားသည်။

**نور على نور** (ရွှေပေါ်မြတင်ပင်ဖြစ်သည်။)

ကျမ်းစာအုပ်ဘက်သို့ ခြေထောက်မဆင်းခြင်းသည် အရေးကြီးသော ဂုဏ်ပေးလေးစားမှုထဲမှဖြစ်သည်။ ရိုသေသောအနေဖြင့် ကုရ်အာန်သဖ်စီးရ် (အဓိပ္ပာယ်ရှင်းလင်းတင်ပြချက်ကျမ်းဂန်များ)ကို အခြားစာအုပ်များအပေါ်ထားရမည်။ ကုရ်အာန်ကျမ်းမြတ်အပေါ်၌ မည်သည့်စာအုပ်မှမထားသင့်ပေ။ ကျွန်ုပ်တို့၏ဆရာ ရှိုင်ခွလ်အစ္စလာမ် ဘုရ်ဟာနူ

ဒ္ဒီးန်ﷺက ရှိုင်ခ်ကြီးများအနက် ရှိုင်ခ်တစ်ယောက်နှင့် ပတ်သက်သည့် အကြောင်းအား ပြောပြလေ့ရှိသည်။ ဖိကဟ်ပညာရှင်တစ်ယောက်သည် မှင်အိုးကို စာအုပ်အပေါ်တင်ထားရာ ထိုဆရာကြီးက ဖာရစီလို "برنيايي" ဟုမိန့်သည်။ အဓိပ္ပာယ်မှာ အသင့်၏အသိပညာမှ အသင်အကျိုးမခံစား ရပါစေနဲ့ဟုဖြစ်သည်။

ကာသ္ဂီခါန်းဟုကျော်ကြားသော ကျွန်ုပ်တို့၏ဆရာ ကာသ္ဂီအေ မာမ်ကြီးဖခ်ရွလ်အစ္စလာမ်ﷺ မိန့်လေ့ရှိသည်။ ထိုသို့တင်ခြင်းကို သေး သိမ်သည်ဟုမှတ်ယူပြီး တင်ခဲ့ခြင်းမဟုတ်ခဲ့ပါမူ ကိစ္စမရှိပေ။ ရှောင်ကြဉ် ခြင်းသာ အကောင်းဆုံးဖြစ်သည်။

လက်ရေးလှလှရေးခြင်း၊ လက်ရေးကြီးကြီးရေးခြင်းသည် ဆရာ့ အား ဂုဏ်ပေးလေးစားခြင်းတစ်မျိုး ဖြစ်သည်။ လက်ရေးသေးသေး ရေး ခြင်းသည် အောက်ခြေမှတ်စုအတွက် ရေးသားရာတွင်သာ အကျိုးဖြစ် ထွန်းစေသည်။

အေမာမ်အဘူဟနီဖွာဟ်ﷺသည် လက်ရေးသေးသေးရေးသော လူတစ်ယောက်အား တွေ့သောအခါ မိန့်တော်မူသည်။ "အသင်သည် အဘယ်ကြောင့် လက်ရေးသေးသေးရေးသနည်း။ အသင်အသက်ဆက် ရှင်လျှင်လည်း နောင်တရမည်။ အသင်သေဆုံးသွားလျှင်လည်း အပြစ် တင်ခံရမည်။ ဆိုလိုသည်မှာ----အသင်အသက်အရွယ်ကြီးရင့်ပြီး စက္ခု

အာရုံချို့ယွင်းလာသောအခါလက်ရေးသေးသေးရေးခဲ့သည့်အပေါ် နောင်တရမည်။

ရှိုင်ခ်အေမာမ်မင်္ဂျဒ္ဒိဒ်ီးန် စရ်ဟကီ ထံမှ အကြောင်းအရာတစ်ခုဆင့်ပြန်ချက်လာရှိသည်။ ဆရာကြီးက မိန့်သည်။ "ကျွန်ုပ်တို့သည် လက်ရေးသေးသေးရေးခဲ့ကြသည်ကို နောင်တရကြသည်။ အတိုချုံးရေးခဲ့သည်ကိုလည်း နောင်တရကြသည်။ ဆရာသခင်များနှင့် မျက်နှာချင်းဆိုင်မတွေ့ဆုံခဲ့သည်ကိုလည်းနောင်တရကြသည်။ စာအုပ်ကို လေးပိုင်းပိုင်းသင့်သည်။ ထိုသို့ခွဲခြမ်းစိတ်ဖြာခြင်းသည် အေမာမ်အဘူဟနီဖွာဟ် ၏ခွဲခြမ်းစိတ်ဖြာခြင်းသာဖြစ်သည်။ ထိုသို့ခွဲခြင်းသည် စာအုပ်သယ်ခြင်း၊ စာအုပ်ထားခြင်းနှင့် ရှေ့စာကြိုတင် လေ့လာခြင်း၌ လွယ်ကူစေရန်ဖြစ်သည်။ စာအုပ်ထဲ၌ အနီနှင့်သက်ဆိုင်ရာတစ်ခုမှ မရှိသင့်ပေ။ ထိုသို့ အနီရှိနေခြင်းသည် ဒဿနိက ပညာရှင်များ၏ လုပ်ရပ်ဖြစ်ပြီး ရှေးသူတော်စင်များ၏ လုပ်ရပ်မဟုတ်ပေ။ ကျွန်ုပ်တို့၏ ဆရာသခင်အချို့သည် မင်နီအသုံးပြုခြင်းကို မနှစ်မြို့ပေ။

သာသနာ့ပညာသင်ကြားရေး၌ အတူပါဝင်သော အတန်းဖော်များနှင့် သင်ကြားပေးသော ဆရာ့အားလေးစားခြင်းသည် အိလ်မ်ကို ဂုဏ်ပေးလေးစား ခြင်းထဲမှ ဖြစ်သည်။ ကပ်ဖားခြင်းသည် ပြစ်တင်ရှုံ့ချဖွယ်ကောင်းသောအရာဖြစ်သော်လည်း ပညာသင်ယူဆည်းပူးရာ၌ ပိုင်သည်။ ဆရာနှင့် အတန်းဖော်များထံမှ အကျိုးခံစားဖို့ ချဉ်းကပ်သင့်သည်။

ကျောင်းသားသည် သာသနာ့ပညာနှင့် ဟိကမ်သ်ဟဒီးဆ်ပညာကို အာရုံစိုက်နားထောင်သင့်သည်။ မတ်စ်အလဟ် ပြဋ္ဌာန်းချက်တစ်ခုသို့မဟုတ် စကားလုံးတစ်လုံးကို အကြိမ်တစ်ထောင်ကြားရလင့်ကစား အာရုံစိုက်နားထောင်ရမည်။ အကြင်သူသည် ထိုစာလုံးကိုအကြိမ်တစ်ထောင်ကြားပြီးသည့်နောက် ပထမအကြိမ်ကဲ့သို့ ဂုဏ်ပေးလေးစားခြင်းမရှိပါကထိုသူသည်သာသနာ့ပညာနှင့်မထိုက်သက်ပေဟုပြောကြသည်။ ကျောင်းသားသည် မိမိကိုယ်တိုင်ဘာသာရပ်မရွေးချယ်သင့်ပဲ ဆရာ့ကိုသာမိမိနှင့်သင့်တော်မည့် ဘာသာရပ်အား ရွေးချယ်ခိုင်းသင့်သည်။ အကြောင်းမှာ ဆရာသည် ထိုကဏ္ဍ၌ အတွေ့အကြုံရှိသောကြောင့် ဖြစ်သည်။ ဆရာသည် ကျောင်းသားတစ်ဦးတိုင်းအတွက် လိုအပ်သည့်ဘာသာရပ်၊ ကျောင်းသား၏ဗီဇသဘာဝနှင့်ကိုက်ညီသောအရာကို အသိဆုံးဖြစ်သည်။

ရှိုင်ခ်အေမာမ်ဗုရ်ဟာနုဒ္ဒီးန်ﷺမိန့်လေ့ရှိသည်မှာ------------------ ပထမခေတ်ကာလ၌ရှိသော ကျောင်းသားများသည် သင်ကြားမှုကဏ္ဍ၌ မိမိတို့၏ကိစ္စအဝဝကို ဆရာ့ထံ၌သာ လွှဲအပ်ထားသည့်အတွက် ၎င်းတို့လိုချင်သော ပန်းတိုင်ကို ရောက်ကြသည်။ ယခုခေတ် ကျောင်းသားများသည် မိမိတို့၏ကိစ္စကို ကိုယ်တိုင်ရွေးချယ်သည့်အတွက် ပညာရေး၌ လိုရာခရီး မရောက်ကြပေ။

အေမာမ်မုဟမ္မဒ်ဗင်န်အိစ်မာအီးလ်ဗုခါရီﷺသည် အေမာမ်မုဟမ္မဒ်ဗင်န်ဟစံﷺထံ၌ နမားဇ်အခန်းရေးသားခြင်းကို အစပြုခဲ့သည်။ အေ

မာမ်မုဟမ္မဒ်ﷺက အေမာမ်ဗုခါရီﷺအား-- အသင်သွားပါ။ ၎င်းနောက် ဟဒီးဆ်ပညာသင်ကြားပါဟု မိန့်တော်မူသည်။ အကြောင်းမှာ ဟဒီးဆ်ပညာရပ်သည် အေမာမ်ဗုခါရီﷺ၏ဗီဇနှင့် ကိုက်ညီကြောင်း အေမာမ်မုဟမ္မဒ်ﷺသိထားခြင်းကြောင့်ဖြစ်သည်။ သို့ရှိရာ အေမာမ်ဗုခါရီﷺသည် ဟဒီးဆ်ပညာရပ်သင်ကြားရာ၌ ဟဒီးဆ်ပညာရှင်များ၏ဥသျှောင် ဖြစ်သွားသည်။

ကျောင်းသားသည် သင်ခန်းစာသင်ကြားချိန်၌ မလိုအပ်ဘဲဆရာ့နားမထိုင်သင့်ပေ။ သို့သာမက ဆရာ့နှင့်သူ့အကြား၌ လေးကိုင်းအတိုင်းအတာ အကွာအဝေးရှိရမည်။ ထိုသို့ထိုင်ခြင်းသည် ဂုဏ်ပေးလေးစားမှုနှင့် အနီးစပ်ဆုံးဖြစ်သည်။

ကျောင်းသားသည် ပြစ်တင်ရှုံ့ချဖွယ်ကောင်းသော နိမ့်ကျသည့် ကိုယ်ကျင့်တရားစာရိတ္တများမှ ရှောင်ကြဥ်သင့်သည်။ အကြောင်းမှာ ထိုစာရိတ္တများသည် အဓိပ္ပာယ်အရ ဖောက်လွဲဖောက်ပြန်ခြင်း ဖြစ်သည်။ ကိုယ်တော်မြတ်ﷺ အမိန့်ရှိတော်မူသည်။ ခွေး(သို့မဟုတ်) ရုပ်ပုံရှိသော အိမ်တစ်အိမ်ကိုပင် ကောင်းကင်တမန်များ မဝင်ကြပေ။ အကြောင်းမှာ ကျောင်းသားသည် ကောင်းကင်တမန်၏ အကြောင်းခံဖြင့်သာ ပညာသင်ယူနိုင်သည်။ ပြစ်တင်ရှုံ့ချခံရသော ယုတ်ညံ့သော စရိုက်များသည် ကိုယ်ကျင့်တရားကောင်းများနှင့်ဆန့်ကျင်ဖက်ဖြစ်ကြောင်း ကိုယ်ကျင့်တရားများ၏ အခန်းကဏ္ဍ၌ ကျော်ကြားသည်။ ကျွန်ုပ်၏ စာအုပ်သည်

ထိုအရာကိုရှင်းဖို့မလိုအပ်ပေ။အထူးသဖြင့်မောက်မာပလွှားမှုကိုရှောင်ရမည်။ မောက်မာမှုနှင့်အတူ ပညာမရနိုင်။ အဆိုရှိကြသည်မှာ-

**ဒီရေသည်မြင့်မားသောနေရာအတွက်စစ်ပွဲသဖွယ်ဖြစ်သလို**

**သာသနာ့ပညာသည် မာနကြီးသောလူငယ်အတွက်**

**စစ်ပွဲသဖွယ်ဖြစ်သည်။**

ကျွန်ုပ်အမြင့်ရောက်နေခြင်းသည်ကျွန်ုပ်၏ကြိုးစားမှုသက်သက်သာဖြစ်သည်။ အခြားသူတစ်ဦးတစ်ယောက်၏ အကူအညီမပါပေ။ ကြိုးစားမှုမပါလျှင် နဖူးစာကံကောင်းခြင်း၊ ဝေစုဝေပုံရခြင်းသည် အကျိုးမရှိပေ။ ကြိုးစားမှုကြောင့် မြောက်မြားစွာသော**ကျွန်**များသည် **သခင်**နေရာဝင်ယူသွားကြပြီး မြောက်မြားစွာသော **သခင်**များသည် ကြိုးစားမှုမပါသောကြောင့် **ကျွန်**နေရာ ရောက်သွားကြသည်။



## အခန်း (၅)

## ကြိုးစားခြင်း၊ စွဲစွဲမြဲမြဲလုပ်ခြင်းနှင့် လုံ့လဝီရိယရှိခြင်း

ထို့နောက် ကျောင်းသားသည် ကြိုးစားရန်နှင့် မိမိလုပ်နေသောကိစ္စရပ်ကိုတစိုက်မတ်မတ်လုပ်ရန်အရေးကြီးသည်။ကျမ်းမြတ်ကုရ်အာန်၌ ဤအချက်ကို အောက်ပါဗျာဒိတ်တော်ဖြင့် ညွှန်ပြထားသည်။ **"ငါအလ္လာဟ်အရှင်မြတ်နှင့်ပတ်သက်ပြီး ကြိုးစားသူများကို ငါအလ္လာဟ်အရှင်မြတ်သည်မုချလမ်းမှန်ပြသတော်မူမည်။" (စူရာဟ်အန်ကဗူးသ်၊**

**အာယသ်၆၉)** နောက်တစ်နေရာတွင် - **"အိုယဟ်ယား၊ အသင်သည် သောင်ရသ်ကျမ်းဂန်ကိုကြိုးကြိုးစားစားဖြင့်ဆုပ်ကိုင်ပါ၊ယူပါ။" (စူရာဟ် မရ်ယမ်၊အာယသ်၁၂)**အချို့ပညာရှင်များကပြောကြသည်မှာ အရာတစ်ခုကို လေ့လာသောသူသည် ကြိုးစားပါက ထိုအရာကိုရရှိမည်ဖြစ်သည်။ တံခါးခေါက်သောသူက ဖွင့်ခေါက်လျှင် အိမ်ထဲဝင်ရသလိုပင်ဖြစ်သည်။ ပညာရှင်များကပြောကြသည်မှာ-အသင်သည်မိမိလိုလားတပ်မက်သည့် အတိုင်းအတာမျှသာ လိုလားသည့်အရာရရှိမည်။

ပညာသင်ယူဆည်းပူးရာ၌ **(၃)ဦး**သောပုဂ္ဂိုလ်သည် ကြိုးစားရန်လိုအပ်သည်။ (၁)ကျောင်းသား၊ (၂)ဆရာနှင့် (၃)အသက်ထင်ရှားစွာရှိနေသောဖခင်တို့ဖြစ်သည်။

ရှိုင်ခ်အေမာမ် စဒီဒုဒ္ဒီန်းရှီရာဇီ ﷺက ကျွန်ုပ်အား အေမာမ် ရှာဖေ့အီ ﷺ၏ကဗျာကို ရွတ်ပြသည်။

"ကြိုးစားခြင်းသည် ဝေးနေသောအရာတိုင်းကို နီးစေပြီး ပိတ်ထားသောတံခါးများကို ပွင့်စေသည်။ ဖန်ဆင်းခံထဲ၌ ဖွဲလုံ့လရှိမှုနှင့် အထိုက်သက်ဆုံးပုဂ္ဂိုလ်မှာ ကျပ်တည်းသောဘဝနေထိုင်မှု ခံစားနေရသည့် ဖွဲလုံ့လ ဝီရိယရှိသည့်ပုဂ္ဂိုလ်တစ်ဦးသာဖြစ်သည်။ အသိဉာဏ်ကောင်းသူ၏ ဘဝဆိုးရွားနေခြင်းနှင့်ငတုံး၏ ဘဝကောင်းမွန်နေခြင်းသည် အလ္လာဟ်အရှင်မြတ်၏ဆုံးဖြတ်ချက်အထောက်အထားထဲမှဖြစ်သည်။ဉာဏ်ရည်ချီးမြှင့်ခံရသူသည် ကြွယ်ဝမှုဆုံးရှုံးရသည်။ အကြောင်းမှာဆန့်ကျင်ဘက်အရာနှစ်ခုသည် အလွန်ကွဲပြားသည်။

နောက်ကဗျာတစ်ပုဒ်ရွတ်ပြသည်မှာ-

"အသင်သည် လိုလားတောင့်တမှုမရှိဘဲ စကားအလိမ္မာကျွမ်းကျင်သော ဖိကဟ်ပညာ့ရှင်တစ်ယောက်ဖြစ်ချင်လျှင်ပညာကိုချစ်ပါ။ စီးပွားမရှာဘဲ ပညာနောက်ပဲလိုက်ပါ။ ရှူးသွပ်မှုအသီးသီးရှိသည့်အနက်ပညာကိုရှူးသွပ်ပါ။ အခက်အခဲမရှိသည့်ငွေကြေးဥစ္စာပစ္စည်းကိုပင် အလွယ်တကူရှာမရလျှင် ပညာကိုအခက်အခဲမရှိဘဲ ရရှိဖို့မဖြစ်နိုင်ပေ။

အဘူသွိုင်ယိဗ်မုသနဗ္ဗီက ကဗျာစပ်ဆိုသည်မှာ-

"ကျွန်တော်လူတွေရဲ့ပြစ်ချက်တွေထဲမှာ ကိုယ့်ကိစ္စကို ပြည့်ဝအောင် လုပ်နိုင်စွမ်းရှိသောသူများက ပြီးပြတ်အောင်မလုပ်ဘဲ လျှော့လျှော့ပေါ့ပေါ့လုပ်ခြင်းကဲ့သို့ ဆိုးရွားသောပြစ်ချက်တစ်ခုမှ မတွေ့ခဲ့ပါ။

ကျောင်းသားသည် ညတွင်အိပ်ရေးပျက်ခံနိုင်ရန် အရေးကြီးသည်။

ကဗျာဆရာစပ်ဆိုသည့်အတိုင်းပင်..

“ကြိုးစားမှုပင်ပန်းမှု၏ အတိုင်းအတာဖြင့်သာ မြင့်မားသောအဆင့်အတန်းကို ရှာရသည်။ အဆင့်အတန်းမြင့်မားမှုကို လိုလားသောသူသည် ညတွင် အိပ်ရေးပျက်ခံပြီးနေရမည်။ အသင်သည် ဂုဏ်သိက္ခာကိုလိုချင်နေပြီး**ညအိပ်မှာလား။** ပုလဲလိုချင်သောသူသည် ပင်လယ်ထဲဆင်းရစမြဲပင်။ဂုဏ်သိက္ခာမြင့်မားခြင်းသည်မြင့်မားသောဖွဲလုံ့လဝီရိယများကြောင့်သာ ရရှိသည်။ လူ့၏ဂုဏ်ရှိမှုသည် အိပ်ရေးပျက်ခံနိုင်မှု၌သာရှိသည်။”

ပင်ပန်းမှု၊ ကြိုးစားမှုမပါဘဲ ဂုဏ်သိက္ခာလိုလားသောသူသည် မဖြစ်နိုင်သည့်အရာကိုရှာဖွေရာ၌ဘဝကိုဖြုန်းနေသလိုပင်ဖြစ်မည်။ အို.....

သခင်များအားလုံးကိုပိုင်ဆိုင်သောအရှင်! ကျွန်တော်မျိုးသည်အရှင်မြတ်၏ကျေနပ်နှစ်သက်မှုအတွက်သာ ညများ၌အိပ်စက်ခြင်းကို စွန့်လွှတ်ခဲ့ခြင်းဖြစ်သည်။ထို့ကြောင့်အရှင်သည်ကျွန်တော်မျိုးအား သာသနာ့ပညာသင်ယူနိုင်သောသောင်ဝ်ဖီးက်စွမ်းအားချီးမြှင့်တော်ပါ။ ကျွန်တော်မျိုးကိုမြင့်မားသော အဆင့်အတန်း၏ ထွဋ်ခေါင်ထိ ပို့ပေး သနားတော်မူပါ။ (အာမီးန်)

ပညာရှင်များပြောကြသည်မှာ... အသင်ညကို ကုလားအုပ်လို ပြုလုပ်ပါ။ အသင်ပန်းတိုင်ကို ရရှိမည်။ ဆိုလိုသည်မှာ ကုလားအုပ်ဖြင့် ညမှာ မရပ်မနားခရီးဆက်သလို အသင်လည်း ညကို မအိပ်ဘဲနေပါ။ ကျမ်းရှင်ကပြောပြသည်မှာ ဤအဓိပ္ပာယ်ဆောင်သောကဗျာတစ်ပုဒ်ကို ကျွန်တော်ကြားဖူးသည်။

“အကြင်သူသည် မိမိ၏ မျှော်လင့်ချက်များ တစ်စုတစ်စည်းထဲ ရရှိဖို့လိုလားလျှင် မိမိ၏ညကို ကုန်ဆုံးသည့်နေရာတွင် ကုလားအုပ်ဖြင့် ည၌ ခရီးဆက်သလို ပြုလုပ်ပါ။

**အစားအစာလျှော့စားခြင်း**

အိုကျွန်ုပ်၏ မိတ်ဆွေ အသင်သည် ပြည့်ဝမှု ကိုလိုလားသောသူဖြစ်လျှင် အသီးအပွင့် ဆွတ်ခူးနိုင်အောင် အစာလျှော့စားပါ။”

ပညာရှင်များပြောကြသည်မှာ-

မိမိ၏ စိတ်ရိုင်းကို ညမအိပ်ဘဲ နှိမ်နင်းသောသူသည် ထိုလုပ်ရပ်ကြောင့် နေ့အချိန်၌သူ၏စိတ်နှလုံးသည်ကြည်နူးနေမည်ဖြစ်သည်။ကျောင်းသားသည် သင်ခန်းစာကို စွဲစွဲမြဲမြဲလုပ်ရန် အရေးကြီးသကဲ့သို့ ည၏အစနှင့် အဆုံး၌လည်း ထပ်ဖန်တလဲလဲပြန်ဖတ်နေဖို့ အရေးကြီးသည်။ အဘယ်ကြောင့်ဆိုသော်-မင်္ဂရိဗ်နှင့်အေရှာကြားအချိန်နှင့်စဲဟ်ရီအချိန်၌ မင်္ဂလာရှိသောအချိန် တစ်ချိန် ရှိသောကြောင့်ဖြစ်သည်။

ဤသဘောတရားအတိုင်း ကဗျာတစ်ပုဒ်ရှိပါသည်။

အို…ကျောင်းသားလေး၊ အသင်သက္ကဝါ(ရှောင်ကြဉ်ခြင်းတရား)ကို လက်ဆုပ်လက်ကိုင် ပြုထားပါ။ အိပ်စက်ခြင်းကို ဘေးပို့ထားပြီး ဗိုက်ပြည့်ခြင်းကို စွန့်လွှတ်ပါ။ သင်ခန်းစာကို မခွဲမခွာဘဲ စွဲစွဲမြဲမြဲ ပြုလုပ်ပါ။ သင်ခန်းစာကို သိရှိနားလည်ခြင်းက အမြင့်သို့ တက်နိုင်ခြင်း ဖြစ်သည်။ သို့ရှိရာ ကျောင်းသားသည် ငယ်ရွယ်ချိန်နေ့ရက်များ၊ လူပျိုဘဝ၏အားအင်နှင့်ထက်မြက်မှုကိုမိမိရရအသုံးချရမည်။ကဗျာတွင်စပ်ဆိုထားသည့်အတိုင်းပင်…….

**ကြိုးစားမှုအတိုင်းအတာလောက်သာ အသင်လိုချင်တာ ချီးမြှင့်ခံရမည်။**

သို့ရှိရာ မည်သူမဆို မျှော်လင့်ချက်များဖြစ်လာရန် လိုလားလျှင် ညဥ့်၌နိုးထပြီး သဟဂ္ဂျဒ်ဖတ်ရမည်။ နုပျိုမှု၏နေ့ရက်များကို မိမိရရ အသုံးချပါ။ သတိချပ်ရမည်မှာ နုပျိုမှုဆိုသည်မှာ အမြဲထာဝစဥ် မရှိနိုင်ပေ။

အလုပ်ပျက်လောက်သည်ထိမိမိစိတ်ကိုပင်ပန်းချည့်နွဲ့နေအောင် မလုပ်ရပါ။ သို့သာမက အလုပ်လုပ်သည့်နေရာတွင် နူးညံ့သိမ်မွေ့မှုကို အသားပေးရမည်။ နူးညံ့သိမ်မွေ့မှုသည် ကိစ္စရပ်တိုင်း၌ အရေးကြီးသော အုတ်မြစ်ဖြစ်သည်။

ကိုယ်တော်သခင်ﷺမိန့်တော်မူသည်မှာ-----" ဤသာသနာသည် ခိုင်မာပြီးဖြစ်သောကြောင့် အသင်တို့သည် ဤသာသနာထဲ၌ နူးညံ့သိမ်မွေ့စွာဖြင့် ဝင်ရောက်ပါ။ အလ္လာဟ်အရှင်မြတ်ကို ခဝပ်ဆည်းကပ်မှု၌ မိမိစိတ်အားအကျပ်အတည်းမဖြစ်ပါစေနဲ့။ အကြောင်းမှာ ပေါက်ရောက်ထွန်းကားမည့်အရာသည် မြေဆီကိုလည်း မဖျက်ဆီး၊ နေရာလွတ်လည်းမကျန်စေဘဲပေါက်ရောက်စေသည်။ ဆိုလိုသည်မှာ အကျိုးဖြစ်ထွန်းမည့်သူသည် မည်သူ့ကိုမှ ချန်ရစ်ထားမည်မဟုတ်ဘဲ ကျလေရာရောက်လေရာ အရာထင်စေမည်ဖြစ်သည်။ ကိုယ်တော်သခင်ﷺ မိန့်သည်မှာ---- အသင်၏စိတ်သည် အသင်၏အစီးအနင်းဖြစ်သောကြောင့် ထိုစိတ်ကို အသင်ကြင်နာပါ။ ကျောင်းသားသည် သာသနာ့ပညာသင်ကြားသည့်ကဏ္ဍ၌ မြင့်မားသောလုံ့လစိုက်ဖို့ အရေးကြီးသည်။ လူသားသည် မိမိ၏ရည်မှန်းချက်ကြောင့်သာ တောင်ပံနှစ်ဖက်နှင့်ပျံနေသောငှက်သဖွယ်ပျံသန်းနိုင်မည် ဖြစ်သည်။ အမြင့်သို့ရောက်မည် ဖြစ်သည်။ ကဗျာဆရာကြီးအဘုလ်သွိုင်ယစ်ဗ် မုသနဗ္ဗီကဆိုသည်မှာ-

ခိုင်မာသောစိတ်ဓါတ် အတိုင်းအတာနှင့်အညီ ခိုင်မာပြတ်သားသည့် ရည်ရွယ်ချက်များရောက်ရှိလာသည်။ မွန်မြတ်သည့်အတိုင်းအ

တာလောက်သာ ဂုဏ်သိက္ခာရှိသည့် ကိစ္စရပ်များရောက်ရှိလာသည်။ သေးသိမ်သောသူ၏မျက်လုံးထဲ၌ ထိုသေးသိမ်သောအရာကို ကြီးကျယ်သောအရာဟု မြင်နေသော်လည်း ကြီးကျယ်သောသူ၏မျက်လုံးထဲ၌မူ ကြီးကျယ်သမျှအရာတိုင်းသည် သေးသိမ်သွားသည်။

ကြိုးစားခြင်းနှင့် ရည်မှန်းချက်မြင့်မားခြင်းသည် ရည်မှန်းချက်ပန်းတိုင်များ ရရှိနိုင်ရန် အချက်အချာကျသည်။ အကြင်သူ၏ရည်မှန်းချက်သည် အေမာမ် မုဟမ္မဒ်ﷺ ရေးသားပြုစုခဲ့သော စာအုပ်များအားလုံးကို ကျက်မှတ်မှတ်သားဖို့ရန်အတွက်ဖြစ်ပြီး ကြိုးစားမှုနှင့်စွဲစွဲမြဲမြဲ ပြုလုပ်ခြင်းပါ ဒွန်တွဲခဲ့မည်ဆိုပါကထိုသူသည်ကျမ်းစာအုပ်အများစု(သို့မဟုတ်)ကျမ်းစာအုပ်တစ်ဝက်လောက်ကိုကျက်မှတ်နိုင်မည်။ အကြင်သူသည် မြင့်မားသောရည်မှန်းချက်ရှိသော်ငြားလည်း ကြိုးစားမှုမရှိပါမူ (သို့မဟုတ်)ထိုသူ့၌ကြိုးစားမှုသာရှိပြီး မြင့်မားသောရည်မှန်းချက်မရှိပါမူ ထိုသူသည်ပညာအနည်းငယ်သာရရှိမည်။

ရှိုင်ခ်အေမာမ်ရသ္ဒီယွဒ္ဒီးန်နိုင်စာဘူရီ ﷺက مكارم الأخلاق စာအုပ်၌ တင်ပြခဲ့သည်။ ဇုလ်ကရ်နိုင်းဘုရင်ကြီးသည် အရှေ့အရပ်နှင့် အနောက်အရပ်ကို အုပ်စိုးရန်အတွက် ခရီးထွက်ဖို့လိုလားသည့်အခါ ပညာရှင်များနှင့်တိုင်ပင်ခဲ့သည်။ ဘုရင်ကြီးကအုပ်ချုပ်မှု၏ဤအတိုင်းအတာ ပမာဏအတွက်ကျွန်တော်ဘယ်လိုခရီးထွက်ရမလဲ။ လောကသည်ပျက်စီးသွားမည့်မဖြစ်စလောက်အသေးအဖွဲလေးဖြစ်ပြီး လောက၏ပိုင်ဆိုင်မှုသည် သေးသိမ်သောကိစ္စတစ်ခုဖြစ်သည်။ ဤလောက၏ပိုင်ဆိုင်မှုသည် မြင့်

မားသောရည်စူးချက်ကြောင့်ရခြင်း မဟုတ်ပေလောဟု ပညာရှင်များနှင့်တိုင်ပင်ရာ ပညာရှင်များကအသင်သည်တမလွန်ဘဝနှင့် လက်ရှိဘဝ၏ အုပ်ချုပ်မှုရဖို့ ခရီးထွက်ပါ။ ဘုရင်ကြီးကပြောသည်မှာ ဤအရာသည်အကောင်းဆုံးဖြစ်သည်။ ကိုယ်တော်သခင်ﷺမိန့်တော်မူသည်မှာ --------အလ္လာဟ်အရှင်မြတ်သည်ဂုဏ်သိက္ခာမြင့်မားသောကိစ္စရပ်များကိုနှစ်သက်တော်မူ၍ ဂုဏ်သိက္ခာနိမ့်ပါးသောကိစ္စရပ်များကိုမနှစ်သက်ပေ။

ပညာရှင်များပြောကြသည်မှာ-

ကောက်နေသောအရာများအားဖြောင့်ရန်နှင့် ပျက်စီးနေသောသူများအား ပြုပြင်ပေးရန် အကောင်းဆုံးအကြောင်းခံသည် အေးဆေးတည်ငြိမ်ခြင်းနှင့် မြဲမြံစွာ ပြုလုပ်ခြင်းပင်ဖြစ်သည်။

အေမာမ်အဘူဟနီဖွာဟ်ﷺသည် အေမာမ်အဘူယူစွဖ်ﷺအားမိန့်သည်မှာ အသင်သည် အဖြစ်မရှိသူတစ်ယောက်ဖြစ်သွားမည်ဆိုပါကစွဲစွဲမြဲမြဲ မလုပ်တော့ပေ။ အသင်သည်အထူးသဖြင့်ပျင်းရိမှုကို ရှောင်ရမည်။ ပျင်းရိခြင်းသည်နှာခေါင်းရှုံ့စရာကပ်ဆိုးကြီးဖြစ်သည်။ ရှိုင်ခ်အေမာမ်အဘူနဆွ်ရ်ဆွဖ္ဖားရ်အန်ဆာရီﷺကမိန့်သည်။အို...စိတ်----- အသင်မသည်အကောင်းပြုခြင်း၊တရားမျှတခြင်းနှင့်ကောင်းခြင်းတရားအသီးသီးလုပ်သည့်နေရာ၌ နောက်မဆိုင်းလေနှင့်။ မလစ်ဟင်းစေနှင့်။ အားကျစရာကောင်းလောက်အောင် ကြိုးစားသူတိုင်းသည် ကောင်းခြင်းထဲ၌သာရှိပြီး ပျင်းရိသူတိုင်းသည်နဖူးစာကံဆိုးမှုနှင့် ဘေးဒုက္ခထဲ၌သာရှိသည်။

ကျမ်းရှင်ကပြောပြသည်မှာ.. ဤအဓိပ္ပာယ်၌ရှိသော ကဗျာတစ်ပုဒ် ကျွန်တော်ကြုံဖူးသည်။ အို…ကျွန်ုပ်၏စိတ်ရိုင်း အသင်မသည် အပေါ့ရိကနေခြင်းနှင့် ဂရုမစိုက်ဘဲထင်သလိုနေခြင်းကို စွန့်လွှတ်ချင်စွန့်လွှတ် သို့မဟုတ်လျှင် အသင်မသည် ဤသေးသိမ်မှုထဲတွင် ထာဝစဉ်ချုပ်ငြိမ်းနေရမည်။ အကြောင်းမှာကျွန်ုပ်သည်ပျင်းရိသူများအတွက် ငြိမ်းချမ်းမှုလက်မဲ့ဖြစ်ခြင်းနှင့်နောင်တရခြင်းမှတစ်ပါးအခြားဝေစု မတွေ့ခဲ့ဘူးချေ။

ပညာရှင်များကပြောကြသည်မှာ ပျင်းရိမှုသည် လူသားအတွက် များစွာသော အရှက်ရမှု၊ ချည့်နဲ့မှုနှင့် နောင်တရမှုကိုပဲမွေးဖွားပေးသည်။ အသင်မသိသောအရာကို ရှာဖွေရာ၌ ပျင်းရိခြင်းကိုရှောင်ပါ။

အသင်သိဖို့ခက်ခဲသောအရာများအား သိသောပညာရှင်များထံတွင် မေးမြန်းပါ။

ပညာရှင်များပြောကြသည်မှာ- ပျင်းရိခြင်းသည် သာသနာ့ပညာ၏ထွက်မြတ်မှုများနှင့် အကျိုးကျေးဇူးများကိုစဉ်းစားမှုနည်းခြင်းကြောင့်ဖြစ်သည်။ ကျောင်းသားသည် သာသနာ့ပညာ၏ ထွက်မြတ်မှုများကို တွေးတောပြီးစွဲစွဲမြဲမြဲလုပ်ခြင်း၊ ကြိုးစားခြင်းနှင့်ပညာသင်ယူခြင်းအပေါ်၌ မိမိကိုယ်ကိုမိမိ တွန်းအားပေးထားသင့်သည်။

အသိပညာသည်သိပြီးသားအရာများ ကျန်ရှိခြင်းကြောင့် အမြဲကျန်ရှိနေမည်ဖြစ်ပြီး၊ ဥစ္စာပစ္စည်းသည် ပျက်စီးသွားမည်သာဖြစ်သည်။ မုအ်မင်န်များ၏ခေါင်းဆောင်ဟဇရသ်အလီဗင်န်အဗီသွာလိဗ်ﷺမိန့်ခဲ့သလိုပင်ဖြစ်သည်။ “ကျွန်ုပ်တို့သည် မိမိတို့နှင့်ပတ်သက်ပြီးအလွန်နိုင်နင်း

လွှမ်းမိုးနိုင်သောအရှင်မြတ်၏ခွဲဝေမှုကိုကျေနပ်နှစ်သက်ပါသည်။ ခွဲဝေမှုမှာကျွန်ုပ်တို့အတွက်ပညာရရှိမှုဖြစ်ပြီးရန်သူများအတွက်ငွေကြေးဥစ္စာရရှိမှုသာဖြစ်သည်။ မုချငွေကြေးဥစ္စာသည်မကြာမီ ပျက်စီးမည်သာဖြစ်ပြီး မုချအသိပညာသည် မပျက်မစီးဘဲ အမြဲထာဝစဉ်ကျန်ရှိနေမည်ဖြစ်သည်။" အကောင်းကိုသတိရခြင်းသည် အကျိုးပြုသောပညာကြောင့်ဖြစ်သည်။ ထိုသတိရခြင်းသည် သေပြီးနောက်လည်း ကျန်ရှိနေမည်သာဖြစ်သည်။ ထိုသို့အကျိုးပြုသောပညာသည် အမြဲထာဝစဉ်ရှင်သန်နေသောဘဝသာဖြစ်သည် ။

ကျွန်ုပ်တို့ကို ရှိုင်ခ်အေမာမ်ဇွဟီရွဒ္ဒီးန်အေမာမ်ကြီးများ၏မွဖ်သီချုပ်ဟာစန်ဗင်န်အလီမွှရ်ဂီနာနီ ﵀ ဟုကျော်ကြားသောပညာရှင်ကြီးကကဗျာရွတ်ပြသည်မှာ-----မသိမိုက်မဲသူများသည် မသေမီအလျှင်သေဆုံးနေသူများဖြစ်ပြီး အသိပညာရှင်များသည် သေဆုံးပြီးနောက်လည်း ရှင်သန်နေမည်သာဖြစ်သည်။

ရှိုင်ခွလ်အစ္စလာမ်ဗုရ်ဟာနွဒ္ဒီးန် ﵀က ကျွန်ုပ်တို့အား ကဗျာရွတ်ပြသည်။ အသိပညာမဲ့သောသူများသည် မသေမီအလျှင် သေနေသူများသဖွယ်ဖြစ်ပြီး သူတို့၏ခန္ဓာကိုယ်များသည်လည်း သင်္ချိုင်းမရောက်မီအလျှင် သင်္ချိုင်းသဖွယ် အပုပ်နံ့ထွက်နေမည်ဖြစ်သည်။
အသိပညာဖြင့် မရှင်သန်ခဲ့သော ပုဂ္ဂိုလ်သေဆုံးသွားသည်ဆိုလျှင် ထိုသူ့အဖို့ ပြန်လည်ရှင်ပြန်ထရမည့် ကေယာမသ်နေ့၌ ပြန်လည်ရှင်ပြန်ထမှုဟူ၍ မရှိတော့ပေ။

အခြားပညာရှင်များက ကဗျာစပ်ဆိုသည်မှာ------ အသိပညာဉာဏ်ရှိသူသည် သေဆုံးကွယ်လွန်ပြီးနောက် မြေကြီးအောက်တွင်ရှိသော သူ့ခန္ဓာကိုယ်အစိတ်အပိုင်းများ ဆွေးမြေ့နေလင့်ကစား အမြဲထာဝစဉ် ရှင်သန်နေသူသဖွယ်ဖြစ်မည်။ အသိဉာဏ်ပညာမဲ့သူသည် အသက်ရှိသူများထဲမှ ဟုထင်ရသော်လည်း မြေပထဝီပေါ်ဝယ် လမ်းလျှောက်လျက် သေဆုံးနေသူသဖွယ် မည်သည့်အရာကိုမှ မည်မည်ရရ မရှိသူသာဖြစ်မည်။

အခြားပညာရှင်တစ်ပါးကစပ်ဆိုသည်မှာ--- နှလုံးသား၏ရှင်သန်ရာသည် အသိပညာဖြစ်သောကြောင့် အသင်သည်အသိပညာကို မိမိရရ ရယူပါ။ နှလုံးသား၏သေဆုံးခြင်းသည် အသိဉာဏ်မဲ့မှုဖြစ်သောကြောင့် အသင်သည် အသိဉာဏ်မဲ့မှုကို ရှောင်ကြဉ်ပါ။

ရှိုင်ခ်ဗုရ်ဟာနွဒ္ဒီးန်ﷺသည်ကျွန်ုပ်တို့ကိုကဗျာဖတ်ပြသည်။ အသိပညာရှိသူသည် အဆင့်အတန်းအရ အမြင့်မားဆုံးဖြစ်ပြီး လူထုထဲ၌လည်း အခြားသူများထက် ဂုဏ်သိက္ခာမြင့်မားသည့်သူဖြစ်သည်။ သို့ရှိရာ အသိပညာရှင်၏သိက္ခာသည် သေပြီးနောက်လည်း ဆတိုးလျက်ကျန်ရှိနေမည်ဖြစ်ပြီး အသိပညာမဲ့သူသည် သေပြီးနောက် မြေကြီးများအောက်တွင်သာရှိနေမည်။ သူ့ကိုမည်သူမျှသတိမရပေ။ အဆင့်အတန်းမြင့်မားသောသူသည် တပ်စိတ်များကိုကွပ်ကဲသော အာဏာပိုင်ရာထူးချီးမြှင့်ခံရမည်။ ထို့ကြောင့် ထိုသူသည် မိမိပန်းတိုင်ကို မလိုလားခြင်းမှာ ဝေးလေစွ။ လိုလားသူသာ ဖြစ်သည်။ ကျွန်ုပ်သည် များမကြာမီ အချိန်ကာလ၌ အသင်တို့ကို အကြောင်းအရာအချို့ ပြောပြမည်။ သေချာစွာ

နားထောင်ကြပါ။ ကျွန်ုပ်သည် ထွတ်မြတ်မှုတိုင်းနှင့်ပတ်သက်ပြီး ဖော်ပြရန်တော့ မစွမ်းနိုင်ပေ။ အနည်းကျဥ်းသာ ဖော်ပြမည်။ ထိုအိလင်မ်သည် မျက်ကန်းကို လမ်းမှန်ပြပေးမည့် အလုံးစုံသော နူးရ်ရောင်ခြည်ကွန့်မြူးနေသည့် အရသာဖြစ်သည်။ အသိပညာမဲ့သူသည် သက်တမ်းတစ်လျှောက်လုံး အမှောင်ဝဲဂယက်ထဲ၌သာ နေရမည်။ ထိုအိလ်မ်သည် မိမိထံ ခိုလှုံလာသောသူကို ကာကွယ်ပေးမည့် အထွဋ်အထိပ်၌ရှိသော မြင့်မားသော ခံတပ်သဖွယ်ဖြစ်သည်။ ထိုခိုလှုံလာသူသည် အခက်အခဲဒုက္ခအသီးသီးကြား၌ အေးဆေးစွာ ဖြတ်သန်းနိုင်မည်။ လူများသည် မိမိတို့၏ မေ့လျော့မှုများထဲ၌ ရှိနေပါလျက် ထိုအိလ်မ်ကြောင့် လွတ်မြောက်မှု တောင်းခံနိုင်ပြီး ဝိဉာဥ်သည် မြေကြီးများအောက် ရှိနေချိန်၌ ခွင့်လွှတ်ချမ်းသာမှုရရန် မျှော်ကိုး၍ရသည်။ လူသားသည် အဆိုးရွားဆုံး ပြစ်ဒဏ်ဖြစ်သည့် ဂျဟန္နမ်အပယ်ငရဲကျရေးမှ လွတ်မြောက်ရန် ထိုအိလ်မ်ဖြင့် အသနားခံလို့ရသည်။ အကြင်သူသည် ထိုအိလ်မ်ကို ရှာဖွေဆည်းပူးမည်ဆိုလျှင် ထိုသူသည် ရည်ရွယ်ချက်မှန်သမျှရှာဖွေဆည်းပူးသူလိုဖြစ်မည်။ အကြင်သူသည် ထိုအိလ်မ်ကိုဆွတ်ခူးရရှိခဲ့မည်ဆိုပါက ထိုသူသည် လိုလားချက်မှန်သမျှဆွတ်ခူးရခဲ့သူသာဖြစ်မည်။ အို..အသိဉာဏ်ကောင်းသူ၊အိလ်မ်သည်မြင့်မားသောအဆင့်အတန်းပင်ဖြစ်သည်။အသင်သည် ထိုအိလ်မ်ရရှိလာမည်ဆိုပါကအခြားဂုဏ်၊ရာထူးများအားအပေါစားဟုမှတ်ယူလိုက်ပါ။အသင်လောကကြီးနှင့် လောကကြီး၏ ကောင်းခြင်းမှန်သမျှ

ဆုံးရှုံးနေလင့်ကစား အိလ်မ်သာသနာ့ပညာသည် အကောင်းဆုံးချီးမြှင့် မြောက်စားမှုဟု အသင်မျက်စိမှိတ်ယုံကြည်လိုက်ပါ။

အချို့သူများ၏ ကဗျာကို ကျွန်တော်စပ်ပြမည်။

အသိပညာရှိသူသည် အသိပညာကြောင့် ဂုဏ်သိက္ခာ ရှိလာမည် ဆိုလျှင် ဖိကဟ်ပညာသည် ဂုဏ်သိက္ခာမြင့်ဖို့ အထိုက်သက်ဆုံးသာ ဖြစ်သည်။ အလွန်မွှေးကြိုင်သည့်များစွာသော ရေမွှေးများသည် ကတိုးရေမွှေးအနံ့မမီသကဲ့သို့၊ အမြင့်ပျံနိုင်သည့်ငှက်တိုင်းသည် သိမ်းငှက်ကဲ့သို့ မပျံသန်းနိုင်ကြပေ။ ဆိုလိုသည်မှာဂုဏ်သိက္ခာရရှိသည့်နေရာ၌ ဖိကဟ် ပညာကို အခြားအရာထက် အသာပေးထားခြင်းဖြစ်သည်။

ဆက်လက်ပြီးကဗျာဆိုသည်မှာ.... သာသနာ့ပညာသည် အသင် စုဆောင်းသမျှ အရာထဲ၌ တန်ဖိုးအကြီးဆုံး အရာဖြစ်သည်။ အသင် သည် သာသနာ့ပညာကို သင်ယူပြီး အမြဲတမ်းသာသနာ့ပညာ၏ ထွတ် မြတ်မှုများအား သင်ယူခဲ့သော် အသင်သည် မိမိအတွက် မိမိမသိသော အရာကိုသာ ရှာဖွေပါ။ သာသနာ့ပညာ၏ အစနှင့်အဆုံးသည် အာရုံစိုက် ခြင်းသာဖြစ်သည်။ သာသနာ့ပညာ၊ဖိကဟ်ပညာနှင့်သိနားလည်မှု၏အ ရသာကြောင့် အသိဉာဏ်ရှိသူကို သာသနာ့ပညာသင်ယူရန် ဖိတ်ခေါ်သူ၊ စေလွှတ်သူဖြစ်ရန် လုံလောက်သည်။

ပျင်းရိမှုသည် ချွဲများများ ထွက် ခြင်းနှင့် အအေးဓါတ်များခြင်းမှ ပေါက်ဖွားလာသည်။ ချွဲကိုနည်းပါးအောင်လုပ်နည်းမှာ........... အစားအ သောက်ကို လျှော့ပေါ့စားခြင်းဖြစ်သည်။ နဗီတမန်တော်အပါး(၇၀)မှ

မေ့လျော့မှုများဖြစ်ရခြင်းမှာချွဲများခြင်းကြောင့်ဖြစ်သည်ဟု တစ်ညီတစ်ညွတ်တည်းဆိုထားသည်။ချွဲများခြင်းသည် ရေသောက်များခြင်းကြောင့်၊ ရေသောက်များခြင်းသည် အလွန်စားခြင်းကြောင့် ဖြစ်သည်။ မုန့်အခြောက်သည် ချွဲထွက်ခြင်းကို ပြတ်တောက်စေသည်။ အာရည်အပေါ် အရသာ ခံ၍စပျစ်ခြောက်စားခြင်းသည်လည်း ထိုနည်းအတိုင်း ချွဲများခြင်းကို ပြတ်တောက်စေသည်။ စပျစ်ခြောက်အားရေသောက်ရန် လိုအပ်သည့်အတိုင်းအတာထိ များများမစားသင့်ပေ။ များများစားပါက ချွဲကိုပိုထွက်စေမည်။ တံပူစားခြင်းသည် ချွဲကိုလျော့နည်းစေသည်။ မှတ်သားဉာဏ်တိုးစေပြီး စကားပြောပိုကောင်းစေသည်။ အကြောင်းမှာ တံပူစားခြင်းသည် စွန္နသ်ဖြစ်သည်။ ကေရာအသ်ဖတ်ခြင်းနှင့်ဆွလာသ်ဝတ်ပြုခြင်း၌ရှိသော အကျိုးစဝါးဗ်ကိုသာပိုစေသည်။ ထိုနည်းအတိုင်း အန်ခြင်းသည်ချွဲနှင့်အအေးဓါတ်ကိုလျှော့ချပေးသည်။ အစားအစာလျှော့စားခြင်း၏ နည်းလမ်းမှာအစားအစာလျှော့စားခြင်း၌ရှိသော အကျိုးများကိုစဉ်းစားမိခြင်းဖြစ်သည်။ ထိုလျှော့စားခြင်းသည် ကျန်းမာရေးလိုက်စားခြင်း၊ အသောက်အစားပျော်ပါးမှုကို ရှောင်ကြဉ်ခြင်းနှင့် အခြားသူကိုဦးစားပေးခြင်းဖြစ် သည်။

ပညာရှင်များက ပြောကြသည်မှာ-

အစားအသောက်ကြောင့်ဖြစ်သော လူသား၏ နဖူးစာကံဆိုးရခြင်းသည် အလွန်ပြစ်တင်ရှုံ့ချဖွယ်ရာ ဖြစ်သည်။

ကိုယ်တော်သခင်ﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ကိုယ်တော်သခင်ﷺမိန့်တော်မူသည်။ (၃)ဦးသော ပုဂ္ဂိုလ်အား အလ္လာဟ်အရှင်မြတ်သည် အပြစ်မရှိဘဲ အမျက်တော်ရှတော်မူသည်။ ၎င်းတို့မှာ- **အလွန်စားသောသူ၊ စေးနဲ့တွန့်တိုသောသူနှင့် မောက်မာပလွှားသောသူ** သာဖြစ်သည်။ မြောက်မြားစွာစားခြင်း၏ ဆိုးကျိုးများကို စဉ်းစားရမည်။ များစွာစားခြင်းသည် ရောဂါဆိုးကြီးဖြစ်ပြီး ဗီဇသဘာဝကို ထိုင်းမှိုင်း ပျင်းရိစေသည်။

ပညာရှင်များ ပြောကြသည်မှာ- ဗိုက်အပြည့်စားခြင်းသည် အသိဉာဏ်ကိုပျက်စီးစေသည်။ ဂျာလီနူးစ်ထံမှ အကြောင်းအရာတစ်ခုလာရှိသည်။ ဂျာလီနူးစ်ကမိန့်သည်။ သလဲသီးသည်ကောင်းကျိုးအတိပြီးနေပြီး ငါးသည်ဆိုးကျိုးအတိပြီးနေသည်။ အချို့ပညာရှင်များကပြောကြသည်မှာ---- ငါးနည်းနည်းစားခြင်းသည် သလဲသီးများများစားခြင်းထက်သာပိုကောင်းမွန်သည်။ သလဲသီးများများစားခြင်း၌ပစ္စည်းဥစ္စာဖြုန်းတီးခြင်းရှိသည်။ ဗိုက်ပြည့်သည်ထက် ပိုစားခြင်းသည် ဆိုးကျိုးသက်သက်သာဖြစ်သည်။ တမလွန်ဌာန၌ ဖြုန်းတီးခြင်းကြောင့် အပြစ်ပေးခံရဖို့ထိုက်သက်သည်။ အစားကျူးသူသည် နှလုံးသားထဲ၌ အမုန်းတရားရှိသူဖြစ်သည်။ အစားလျှော့စားခြင်း၏နည်းလမ်းမှာ အဆီပါသောနိမ့်ပါးသောအစားအစာကိုစားသုံးခြင်းဖြစ်သည်။ စားသည့်နေရာ၌အနူးညံ့ဆုံး၊ အရသာအရှိဆုံးအစားအစာကို ဦးစားပေးစားရမည်။ ဗိုက်ဆာလောင်မွတ်သိပ်ချိန်တွင်လည်း အစားကျူးလို့မရပါ။ အစားများများစားခြင်း၌

မှန်ကန်သော ရည်ရွယ်ချက်ရှိပါမူ စားနိုင်သည်။ ခက်ခဲသော အလုပ်များ လုပ်ဆောင်ဖို့၊ နမားဇ်ဝတ်ပြုရာ တွင်သော်လည်းကောင်း၊ ရိုဇာဥပုသ် စောင့်ထိန်းရာတွင်လည်းကောင်းအားအင်ရှိဖို့စားသုံးပါမူ များများစားခြင်းပိုင်သည်။



## အခန်း (၆)

## သင်ခန်းစာ စတင်ခြင်း၊ အစီအစဥ်အတိုင်းလုပ်ခြင်းနှင့် တန်ဖိုးထားခြင်း

ကျွန်ုပ်တို့၏ဆရာ ရှိုင်ခွလ်အစ္စလာမ်ဗုရ်ဟာနွဒ္ဒီးန်ﷺက ဗုဒ္ဓဟူးနေ့၌ သင်ခန်းစာအစပြုခြင်းကို အလေ့အထ လုပ်လေ့ရှိခဲ့သည်။ ထိုကိစ္စနှင့်ပတ်သတ်ပြီး ဟဒီးဆ်တော်တစ်ပုဒ်အား အမြဲဆင့်ပြန်ပြီး အထောက်အထားပေးသည်။ ဆရာကြီးက ကိုယ်တော်သခင်ﷺမိန့်တော်မူသည်ကို ပြောပြသည်မှာ-ဗုဒ္ဓဟူးနေ့၌ စတင်ခြင်းခံရသော အလုပ်ကိစ္စဟူသမျှသည် မုချပြည့်ဝသည်။ အေမာမ်အဘူဟနီဖွာဟ်ﷺသည် ထိုဟဒီးဆ်ကို ကျင့်သုံးမြဲ ကျင့်သုံးခဲ့သည်။ အေမာမ်ကြီးသည် ဤဟဒီးဆ်တော်ကို သူ၏ဆရာ ရှိုင်ခ်အေမာမ်ကေ့ဝါမွဒ္ဒီးန်အဟ်မဒ်ဗင်န်အဗ်ဒွရ်ရဟီးမ်ﷺ ထံမှ အမြဲဆင့်ပြန်ခဲ့သည်။ ကျွန်ုပ်သည် မိမိယုံကြည်စိတ်ချရသော ပုဂ္ဂိုလ်ထံမှကြားခဲ့ရသည်မှာ- ရှိုင်ခ်အဘူယူစွဖ်ဟမ်ဒါနီﷺသည် ကောင်းသော အလုပ်ကိစ္စရပ်တိုင်းကို ဗုဒ္ဓဟူးနေ့၌ ဆောင်ရွက်လေ့ရှိသည်။ ဤသို့

ဆောင်ရွက်ရခြင်း အကြောင်းမှာ ဗုဒ္ဓဟူးနေ့သည် နူးရ်ရောင်ခြည်တော် ဖန်ဆင်းခံရသောနေ့ဖြစ်ခြင်းနှင့်အတူ ကာဖိရ်တို့ထံ၌ ပြဿဒါးနေ့ ဖြစ်သောကြောင့်ပင်။ သို့သော်ထိုဗုဒ္ဓဟူးနေ့သည်မုအ်မင်န်များအတွက် မင်္ဂလာအတိပြီးသောနေ့ဖြစ်သည်။ ယခုနှစ်မှစတင်သင်ယူသော ကျောင်းသားများ၏ သင်ခန်းစာအတိုင်းအတာနှင့်ပတ်သက်ပြီး ပြောရမည်ဆိုလျှင် အေမာမ်အဘူဟနီဖွာဟ်ﷺသည် ရှိုင်ခ်ကာသွီအေမာမ်အုမရ်ဗင်န် အဘီဘက်ရ်ဇရ်နုဂျီﷺထံမှအကြောင်းအရာဆင့်ပြန်ပြောကြားသည်။

ကာသွီအုမရ်ကပြောပြသည်။ ကျွန်ုပ်တို့၏ရှိုင်ခ်ဆရာသခင်ကြီးများ မိန့်တော်မူသည်မှာ- စတင်သင်ကြားသည့် ပုဂ္ဂိုလ်အတွက် သင်ခန်းစာအတိုင်းအတာမှာ အေးဆေးစွာ နှစ်ကြိမ်ပြန်ကြော့နိုင်ပြီး မှတ်သားနိုင်မည့် အတိုင်းအတာဖြစ်ရမည်။ နေ့စဉ်နေ့တိုင်း စကားလုံးသစ်တစ်လုံး ပုံမှန်တိုးနေရမည်။ စကားလုံးများ စကားစုများ ရှည်လျားများပြားလာသည်အထိဖြစ်သည်။ နှစ်ကြိမ်ပြန်ကြော့ခြင်းဖြင့် ကျက်မှတ်မှတ်သားဖို့ ဖြစ်နိုင်သည်။ Step By Step တစ်ဆင့်ပြီးတစ်ဆင့် ပို၍မှတ်သားနိုင်မည်။ စတင်သင်ကြားရာ၌ သင်ခန်းစာအရှည်ကြီး သင်ကြားလိုက်မည်ဆိုပါက နားလည်ဖို့ ကြန့်ကြာသွားမည်။ ဆယ်ကြိမ်တိုင် ပြန်ကျော့ဖို့ လိုလာမည်။ အဆုံး၌လည်း ထိုနည်းအတိုင်း နားလည်ရခက်နေမည် ဖြစ်သည်။ အကြောင်းမှာ နားလည်ရခက်ခြင်းသည် အကျင့်ဖြစ်သွားသောကြောင့်ဖြစ်သည်။ ထိုအကျင့်အား အလွန်ခက်ခက်ခဲခဲဖြင့်သာ စွန့်လွှတ်နိုင်တော့မည်ဖြစ်သည်။

ပညာရှင်များပြောကြသည်မှာ-အနည်းငယ်သာသင်ပြီး အကြိမ်တစ်ထောင် ပြန်ကျော့ပါ။ ပိုပြီးနားလည်မည့်အရာနှင့်သာ သင်ခန်းစာစသင့်သည်။ ရှိုင်ခ်အေမာမ်ရှရ်ဖွဒ္ဒီးန်အကီလီ ﷺ မိန့်လေ့ရှိသည်။ ဤအချက်အား ကျွန်ုပ်၏ဆရာသခင်ကြီးများ ပြုလုပ်ခဲ့ကြောင်းသည် ကျွန်ုပ်ထံ၌ မှန်ကန်တိကျခိုင်မာစွာရှိသည်။ ဆရာသခင်ကြီးများသည် ယခုမှစတင်သင်ကြားမည့်ကျောင်းသားအဖို့စာအုပ်အရှည်ကြီးများကိုအတိုချုံးရေးသားထားသောစာအုပ်လေးများရွေးချယ်ပေးလေ့ရှိသည်။ကျက်မှတ်မှတ်သားဖို့လွယ်ကူစေရန်နှင့်ပျင်းရိငြီးငွေ့မှုမှ ဝေးကွာစေရန်ဖြစ်သည်။ လူတောတိုးနိုင်ရန် ဖြစ်သည်။

ကြိမ်ဖန်များစွာ ပြန်ကျော့ခြင်းနှင့် ကျက်မှတ်ခြင်း ပြီးသည့်နောက် သင်ခန်းစာအတိုချုံးရေးသားခြင်းသည် အလွန်အကျိုးရှိသည်။ ကျောင်းသားသည် မိမိနားမလည်သော အရာတစ်ခုမျှ မရေးရပေ။ ထိုသို့ရေးခြင်းသည် ဗီဇသဘာဝကို ငြီးငွေ့စေသည်။ နားလည်နိုင်စွမ်းအားပျက်စီးစေပြီး မိမိ၏အချိန်များကို အလဟဿဖြစ်စေသည်။

ဆရာ့ထံမှ တိုက်ရိုက်နားလည်ဖို့ ကြိုးစားသင့်သည်။ သို့မဟုတ်ပါက များစွာစဉ်းစားတွေးခေါ်ခြင်းနှင့် ထပ်ဖန်တလဲလဲပြန်ဖတ်ခြင်းဖြင့်နားလည်ဖို့ ကြိုးစားသင့်သည်။ အကြောင်းမှာသင်ခန်းစာနည်းသောအခါထပ်ဖန်တလဲလဲပြန်ကျော့ခြင်း၊ စဉ်းစားခြင်းသည် သင်ခန်းစာကိုပိုမိုနားလည်စေသည်။

ပညာရှင်များပြောကြသည်မှာ--- စာလုံးနှစ်လုံးကျက်ခြင်းသည် လေးလံသောဝန်နှစ်ခု ကြားနာခြင်းထက် ပိုကောင်းသည်။ စာလုံးနှစ်လုံး နားလည်ခြင်းသည် လေးလံသောဝန်နှစ်ခုမှတ်ခြင်းထက် ပိုကောင်းသည်။ နားလည်ဖို့ကြိုးစားရာ၌ရေသာခိုအချောင်လိုက်၍တစ်ကြိမ် (သို့) နှစ်ကြိမ်ကြိုးစားမှုမရှိခြင်းသည် အထုံပါရမီဖြစ်သွားသောအခါ နားလည်ရလွယ်သော စာသားများပင် နားလည်ရခက်သွားမည်။ ထို့ကြောင့်နားလည်ဖို့ကြိုးစားရာ၌ အချောင်မခိုသင့်ပေ။ သို့သာမက ကြိုးစားရမည်။ အလ္လာဟ်အရှင်မြတ်ထံ၌သာ တောင်းခံပြီး ထိုအရှင်မြတ်ကိုသာ ခဝပ်ဆည်းကပ်ရမည်။ အကြောင်းမှာထိုအရှင်မြတ်သည်မိမိထံ တောင်းခံသူအားလက်ခံပေးသည်။ မိမိကိုမျှော်လင့်မက်ထားသူ၏ မျှော်လင့်ချက်အားရိုက်မချိုးပေ။

ရှိုင်ခ်အေမာမ်ကေ့ဝါမွဒ္ဒီန်းဟာမ္မားဒ်ဗင်န်အီဗ်ရာဟီးမ်ဗင်န်အိစ်မာအီးလ်ဆွဖ္ဖားရ်ﷺ၏ကဏ္ဍ၌ ကျွန်ုပ်တို့အား ကာသွီခလီလ်ဗင်န်အဟ်မဒ်စရခ်စီ၏ ကဗျာကို နှုတ်တိုက်ခေါ်ပေးခဲ့သည်။ ကဗျာမှာ-

အသင်သည် အိလ်မ်သာသနာ့ပညာအား အကျိုးခံစားသူ၏ အလုပ်အကျွေးပြုသည့် ပုံစံအတိုင်း အလုပ်အကျွေးပြုပါ။ အသင်သည် သင်ခန်းစာကို ချီးကျူးဖွယ်ကောင်းသော အသိဉာဏ်ဖြင့် အစွန့်ရှည် စေတော်မူပါ။ မြဲအောင်လုပ်ပါ။ အသင်သည် အရာတစ်ခုကို ကျက်မှတ်သည့်အခါ ထိုအရာကို ပြန်ကျော့ပြီး အလွန်ခိုင်မာအောင် ပြုလုပ်ပါ။ ပြီးနောက် အသင်သည် သင်ခန်းစာ ပို့ချသည့်အချိန်၌ ခိုင်ခိုင်မာမာ သင်ခန်းစာကို

ပြန်ပို့ချနိုင်အောင် ထိုကျက်မှတ်ထားသောအရာကို ရေးမှတ်ပါ။ အသင်သည်မိမိကျက်မှတ်ထားသည့်အရာမေ့သွားမည်ကိုမစိုးရိမ်ရပါကအသစ်သင်ခန်းစာကိုအလျင်အမြန်လေ့လာပါ။ အပိုတိုးလာသည့်အရာကို ဂရုစိုက်သည့်အနေဖြင့် ပထမပုံစံအတိုင်း ထပ်ဖန်တလဲလဲ ပြန်ကျော့ပါ။ ပြန်ဖတ်ပါ။ အသင်ရှင်သန်နိုင်ဖို့လူများနှင့်အသိပညာဖလှယ်ပါ။ အသင်သည် ဉာဏ်အမြော်အမြင်ကြီးသူများ၏ အဝေး၌နေသူ မဖြစ်လေနှင့်။ အသင်သည် မိမိသိထားသော အသိပညာများကို ဖုံးကွယ်ပါက ထိုအသိပညာများအား မေ့သွားမည်။ နောက်ဆုံး၌ မသိမိုက်မဲသော ငတုံးကိုသာ အသင်တွေ့ရမည်။ ထို့နောက်ကေယာမသ်နေ့၌ မီးပါးချုပ်တပ်ပေးခြင်းခံရပြီး ပြင်းထန်လှစွာသော ပြစ်ဒဏ်ထဲ၌ မီးမြိုက်ခံရမည်။

ကျောင်းသားသည် အပြန်အလှန် ဆွေးနွေးတင်ပြရန်၊ အပြန်အလှန် စကားစစ်ထိုးရန်၊ ငြင်းခုံရန်အရေးကြီးသည်။ထိုသို့လုပ်ရာ၌ မျှမျှတတ၊ အေးအေးဆေးဆေး၊ စဉ်းစဉ်းစားစား လုပ်သင့်သည်။ ပြဿနာရှာခြင်း၊ ဒေါသထွက်ခြင်းမှ ရှောင်ကြဉ်ရမည်။ အကြောင်းမှာ စကားစစ်ထိုးခြင်း၊ အပြန်အလှန်တင်ပြခြင်းသည် ဆွေးနွေးတိုင်ပင်ခြင်းဖြစ်၏။ ဆွေးနွေးတိုင်ပင်ခြင်းသည် အမှန်ကိုထုတ်ဖော်ဖို့ရန်အတွက် ဖြစ်သည်။ ထိုသို့အမှန်ကို အဖြေထုတ်ခြင်းသည် စဉ်းစဉ်းစားစား၊ အေးအေးဆေးဆေး၊ မျှမျှတတလုပ်ခြင်းဖြင့်သာရရှိမည်။ ဒေါသထွက်ခြင်း၊ ပြဿနာရှာခြင်းဖြင့် မရရှိနိုင်ပါ။ အကယ်၍မိမိရည်စူးချက်သည် အချင်းများဖို့အတွက် ဖြစ်မည်ဆိုပါက စကားအချေအတင် ပြောခြင်းမပိုင်ပေ။ အမှန်

တရားဖော်ထုတ်ဖို့သာ စကားအချေအတင် ပြောခြင်းပိုင်သည်။ စကား စစ်ထိုးခြင်း၌ အမှန်ကို အမှားနှင့်ရောခြင်း၊ ပရိယာယ်ဆင်ခြင်း မပိုင်ပေ။ သို့သော် တရားပြိုင်သည် အမှန်တရားလိုလားသည့်သူ မဟုတ်ဘဲ ဇွတ် ငြင်းသောသူဖြစ်ပါက ပိုင်သည်။

အေမာမ်မုဟမ္မဒ်ဗင်နိယဟ်ယား ﷺက အခက်အခဲကြုံကြိုက်၍ အဖြေမတွေ့သောအခါ ပြောလေ့ပြောထရှိသည်မှာ--- ကြုံကိုကြုံရမည့် ကိစ္စတစ်ခုကတော့ ကြုံကြိုက်လာပြီ။ ကျွန်ုပ်ထိုကိစ္စနှင့်ပတ်သက်၍ အဖြေရှာမည်။ အသိဉာဏ်ရှင်တိုင်း၏အထက်တွင် အရာရာအကြွင်းမဲ့ သိတော်မူသော အရှင်မြတ်ရှိတော်မူ၏။ စကားစစ်ထိုးခြင်း၊ အငြင်းအခုံ လုပ်ခြင်း၏ အကျိုးသည် သီးသန့် နောက်စာပြန်ကျော့ခြင်းထက် သာပို အားကောင်းခိုင်မာသည်။ စကားစစ်ထိုးခြင်း၌ ထပ်ဖန်တလဲလဲ ပြန် ကျော့ခြင်းနှင့် အပိုဆောင်း အကျိုးများရှိနေသောကြောင့် ဖြစ်သည်။ ပညာရှင်များပြောကြသည်မှာ- (၁)နာရီ စကားစစ်ထိုးခြင်းသည် တစ်လ နောက်စာ ပြန်ကျော့ခြင်းထက် ပိုကောင်းသည်။ သို့သော် ဗီဇကောင်းမွန် ပြီး သမာသမတ်ရှိသည့် ပုဂ္ဂိုလ်နှင့်စကားစစ်ထိုးမှသာ ဖြစ်သည်။ အထူး သဖြင့် အသင်သည် ဗီဇမကောင်းသော အငြင်းသန်သူနှင့် အပြန်အလှန် ဆွေးနွေးခြင်းကို ရှောင်ရမည်။ အကြောင်းမှာ ဗီဇသည် စိမ့်ဝင်တတ်ပြီး ကိုယ်ကျင့်တရားများသည် ဖောက်ပြန်တတ်သည်။ အတူနေခြင်းသည် အကျိုးအာနိသင် သက်ရောက်စေသည်။

ခလီးလ်ဗင်န်အဟ်မဒ်ﷺ တင်ပြထားသောကဗျာ၌ အကျိုးများ စွာရှိသည်။ ထိုကဗျာကို ပြောပြကြသည်မှာ-

"သာသနာ့ပညာ၏ စည်းကမ်းချက်ထဲမှ တစ်ချက်မှာ သာသနာ့ပညာ သည် မိမိအား အလုပ်အကျွေးပြုသူအတွက် လူအားလုံးက ထိုသူ့ကို အလုပ်အကျွေးပြန်ပြုစေသည်။"

ကျောင်းသားသည် အချိန်တိုင်း၌ သာသနာ့ပညာ၏ အနုစိတ် သော ကိစ္စရပ်များကို စဉ်းစားသည့်သူဖြစ်ရန်နှင့် ထိုသို့စဉ်းစားသည့် အကျင့်အား မွေးမြူသင့်ပေသည်။ အနုစိတ်လှသောအရာများသည် စဉ်း စားတွေးခေါ်မှသာ သိရှိရသည်။ ဤအတွက်ကြောင့် ပြောကြသည်မှာ... အသင်စဉ်းစားပါ။ အသင်သိရှိမည်။ စကားအမှန်ဖြစ်ဖို့ မပြောမီအလျှင် စဉ်းစားရန် အရေးကြီးသည်။ အကြောင်းမှာ စကားသည် မြှားသဖွယ်ဖြစ် သည်။ မှန်မှန်ကန်ကန်ထိနိုင်ဖို့ မပစ်မီအလျှင် ဖြောင့်ဖြောင့်ဆွဲရန် အရေးကြီးသည်။ အုစူလွလ်ဖိက်ဟ်ဘာသာရပ်၌ပြောထားသည်မှာ--ဤ စဉ်းစားတွေးခေါ်ခြင်းသည်အရေးကြီးသော အခြေခံအုတ်မြစ်ဖြစ်သည်။ ထိုအချက်မှာ စကားစစ်ထိုးသောဖိကဟ်ပညာရှင်၏စကားသည်စဉ်းစား တွေးခေါ်မှုဖြင့်သာ ပြောသောစကားဖြစ်ရမည်။ ပြောကြသည်မှာ ------- စဉ်းစားတွေးခေါ်ခြင်း၊ တည်တည်ငြိမ်ငြိမ်ရှိခြင်းဖြင့် စကားပြောခြင်း သည်အသိဉာဏ်ရှိခြင်း၏အုတ်မြစ်ဖြစ်သည်။ ကဗျာဆရာကကဗျာရွတ် သည်မှာ-----အသင်သည် သနားကြင်နာသောမှာတမ်းသူ၏ အမိန့်နာခံ သူဖြစ်မည်ဆိုလျှင် ကျွန်ုပ်သည် အသင့်အား စကားပြေပြစ်စွာပြောနိုင်ဖို့

အချက်(၅)ချက်အား မှာတမ်းမည်။ အသင်သည် စကားပြောရာ၌ စကား ပြောခြင်း၏အကြောင်းခံ၊ ပြောရမည့်အချိန်၊ အသံတိုးပြီးပြောရမလား၊ အသံကျယ်ပြီးပြောရမလား၊ အေးအေးဆေးဆေး ပြောရမလား၊ ဒေါသ နှင့်ပြောရမလား စသည့်ပုံစံများကို ကြုံကြိုက်လာသော် အခြေအနေ ပေါ်မူတည်ပြီး စဉ်းစားပါ။ စကားကို အတိုချုံးပြောရမလား၊အကျယ်ချဲ့ ပြောရမလား စသည့်အတိုင်းအတာများနှင့် ပြောရမည့်နေရာများကို လည်း စဉ်းစားရန်မမေ့လေနှင့်။

လူတိုင်းသည် အချိန်ကို တစ်ပြေးညီ ရကြသည်။ အခြေအနေ တိုင်း၌ အကျိုးခံစားသူ ဖြစ်ရမည်။ ကိုယ်တော်သခင်ﷺမိန့်တော်မူသည်။ အမြော်အမြင်ရှိခြင်းသည် မုအ်မင်န် ပျောက်ဆုံးနေသောအရာ ဖြစ် သည်။ ဘယ်နေရာ၌တွေ့တွေ့မုအ်မင်န်နှင့်သက်ဆိုင်သည်။ မုအ်မင်န် သာယူဖို့ထိုက်သက်သည်။ပညာရှင်များပြောကြသည်မှာ-- အသင်သည် သန့်ရှင်းစင်ကြယ်သောအရာကိုသာရယူပါ။ ၎င်းနောက်နောက်ကျိသော မသန့်ရှင်းသောအရာကို စွန့်လွှတ်ပါ။

ကျွန်တော်သည် ရှိုင်ခ်အေမာမ်ဖခ်ရွဒ္ဒီးန်ကာရှာနီ﷬မိန့်သည်ကို ကြားခဲ့သည်။ အေမာမ်အဘူယူစွဖ်﷬၏ ကျွန်မတစ်ဦးသည် အေမာမ် မုဟမ္မဒ်﷬ထံ၌ အမာနသ်အပ်နှံပစ္စည်းအနေဖြင့် ရှိခဲ့သည်။ ထိုအခါ အေမာမ်မုဟမ္မဒ်﷬ ကထိုကျွန်မအားမေးသည်မှာ----- အသင်မသည် အေမာမ်အဘူယူစွဖ်﷬ထံ၌ ရှိနေစဉ် ထိုအေမာမ်ကြီးထံမှ ဖိကဟ်အသိ တစ်စုံတစ်ရာ မှတ်သားဖူးပါသလားဟု မေးသည်။ ထိုအခါကျွန်မက

"ကျွန်မသည်တစ်စုံတစ်ရာ မမှတ်သားဖူးပါ။ သို့သော် အေမာမ်ကြီးသည် «سهم الدور ساقط»အမွေခွဲဝေရာတွင် ရှုပ်နေသောဘုံဝေစုသည် ဖယ်ထားရမည်။ ဤစာသားကို အကြိမ်ကြိမ်ရွတ်နေတာကို မှတ်သားဖူးသည်။ အေမာမ်မုဟမ္မဒ် ﷺသည် ထိုစာသားကို ကျွန်မထံမှ မှတ်သားခဲ့သည်။ဤပြဿနာချက်သည်အေမာမ်မုဟမ္မဒ်ﷺအတွက် ခက်ခဲခဲ့သော ပြဿနာချက်ဖြစ်သည်။ ဤစာသားကြောင့် ခက်ခဲမှု ပပျောက်သွားသည်။ ထိုအခါ အေမာမ်မုဟမ္မဒ်ﷺသည် လူတိုင်းထံမှ အကျိုးခံစားလို့ရကြောင်း သိသွားခဲ့သည်။ ဤအတွက်ကြောင့် အေမာမ်အဘူယူစွဖ်ﷺအား အသင်သည် ဘယ်အရာဖြင့် သာသနာ့ပညာ ရရှိခဲ့ပါသလဲဟု မေးရာ အေမာမ်ကြီးကမိန့်သည်မှာ-----ကျွန်တော်သည် မောက်မာပြီး အခြားသူများထံမှ အကျိုးမခံစားမိခြင်းမျိုးလည်းမရှိခဲ့၊ စေးနဲတွန့်တိုခြင်းကြောင့် အခြားသူများကို အကျိုးမပြုခဲ့ခြင်းလည်း မရှိခဲ့ပါ။

ဟဇရတ်အိဗ်နုအဗ္ဗားစ်ﷺကို အသင်သည် ဘယ်အရာကြောင့် သာသနာ့ပညာရရှိခဲ့ပါသနည်းဟု မေးရာ ဟဇရတ် အိဗ်နု အဗ္ဗားစ်ﷺက အလွန်မေးသောနှုတ်လျှာ၊ အလွန်တွေးတောသောနှလုံးသားဖြင့် ရခဲ့သည်ဟု အဖြေပေးခဲ့သည်။

ကျောင်းသားကို"ما تقول''ဟုခေါ်ရခြင်းမှာ ပထမခေတ် ကာလ၌ ရှိသော သူများသည် အသင် ဤပြဿနာချက်နှင့်ပတ်သက်ပြီး ဘာပြောမလဲဟု များစွာပြောကြသောကြောင့် ဖြစ်သည်။

အေမာမ်အဘူဟာနီဖွာဟ်ﷺသည် ဖိကဟ်ပညာရှင်ဖြစ်လာခြင်းမှာ အထည်လိပ်ကုန်သည်ဖြစ်ချိန်၌ မိမိ၏ဆိုင်တွင် အပြန်အလှန်ဆွေးနွေးငြင်းခုံမှုများခြင်းကြောင့်ဖြစ်သည်။ ဤအတွက်ကြောင့် သိလာရသည်မှာအသိပညာနှင့်ဖိကဟ်ပညာရရှိခြင်းသည် ရှာဖွေမှုနှင့်အတူတကွပေါင်းစပ်ထားသည်။ အဘူဟာဖ်ဆွဲကဗီးရ်ﷺသည် အမြဲရှာဖွေလေ့ရှိပြီး အကြိမ်ကြိမ် အဖန်ဖန်ရှာဖွေလေ့ရှိသည်။

ကျောင်းသားသည်မိမိ၏အိမ်သူအိမ်သားများနှင့် အခြားသူများအတွက် အသုံးစရိတ်ရှာဖွေဖို့ အရေးကြီးလျှင် ထိုသူသည် မပျင်းရိပဲ အကြိမ်ကြိမ်အဖန်ဖန် ရှာဖွေရမည်။

အပြန်အလှန် ဆွေးနွေးတိုင်ပင်ရမည်။ ကိုယ်ခန္ဓာကျန်းမာပြီး အသိဉာဏ်ကောင်းသူအဖို့သင်ကြားမှုနှင့် ဖိကဟ် အသိပညာသင်ယူမှုအား စွန့်လွှတ်ခြင်း၌ အကြောင်းပြချက် တစ်စုံတစ်ရာ မရှိချေ။ အကြောင်းမှာ အေမာမ်အဘူယူစွဖ်ﷺထက် ပိုဆင်းရဲသည့်သူ မရှိချေ။ ထိုဆင်းရဲခြင်းသည် အေမာမ်ကြီးအား ဖိကဟ်အသိပညာ သင်ယူခြင်းမှ မဟန့်တားနိုင်ခဲ့ပေ။ အကြင်သူ၌ ဥစ္စာပစ္စည်း မြောက်မြားစွာရှိလျှင် ထိုသန့်ပြန့်စင်ကြယ်သောဥစ္စာပစ္စည်းသည် မွန်မြတ်သောသူအဖို့အလွန်အလွန်ကောင်းသည်။ အာလင်မ်သာသနာ့ပညာရှင်တစ်ပါးကို "အသင်သည် ဘယ်အရာကြောင့် သာသနာ့ပညာရရှိခဲ့ပါသလဲ"ဟုမေးရာ အာလင်မ်က ချမ်းသာသောဖခင်ကြောင့် ရရှိခဲ့သည်ဟု အဖြေပေးခဲ့သည်။ အဘယ်ကြောင့်ဆိုသော် ဖခင်ကြီးသည် သူမွန်သူမြတ်များ၊ သာသနာ့

ပညာရှင်များကို ငွေကြေးထောက်ပံ့မှုများ အကောင်းပြုမှုများ လုပ်ခဲ့သည်။ ထိုသို့လုပ်ပေးခြင်းသည် ပညာပိုရခြင်း၏ အကြောင်းခံဖြစ်သည်။ ထိုသို့လုပ်ရခြင်းသည် အသိဉာဏ်နှင့်ပညာ၏စည်းစိမ်အတွက်ကျေးဇူးတင်ခြင်းသာဖြစ်သည်။ ထိုသို့ကျေးဇူးတင်ခြင်းသည် သာပိုချီးမြှင့်ခံရခြင်း၏ အကြောင်းခံဖြစ်သည်။

အေမာမ်အဘူဟနီဖွာဟ်ﷺက မိန့်သည်။ ကျွန်ုပ် ပညာရရှိခဲ့ခြင်းမှာ အလ္လာဟ်အရှင်မြတ်ကို ချီးမွမ်းခြင်း၊ ကျေးဇူးတင်ခြင်းကြောင့် ဖြစ်သည်။ ကျွန်တော်သည် ပညာရပ်များစွာထဲမှ တစ်စုံတစ်ရာ နားလည်ရလာတိုင်း၊ ဖိကဟ်အသိပညာတစ်ခုခု၊ ဟဒီးဆ်တစ်ပုဒ်ပုဒ် သိလာရတိုင်း الحمدلله تعالى ရွတ်ဆိုခဲ့သည်။ ဤသို့ဖြင့်ကျွန်ုပ်၏ အသိပညာတိုးလာခဲ့သည်။ ဤနည်းအတိုင်းပင် ကျောင်းသားသည်လည်း နှုတ်လျှာ၊ နှလုံးသား၊ ခန္ဓာကိုယ်အစိတ်အပိုင်းများ၊ ဥစ္စာပစ္စည်းများ စသည့်အရာများဖြင့် အလ္လာဟ်အရှင်မြတ်ကို ကျေးဇူးတင်သင့်သည်။ ထိုသို့ကျေးဇူးတင်ပါက ကျောင်းသားသည် အလ္လာဟ်အရှင်မြတ်ထံမှ စွမ်းအား၊ အသိပညာနှင့် နားလည်နိုင်စွမ်းချီးမြှင့်မှုကို မျက်ဝါးထင်ထင် မြင်ရမည်။ အလ္လာဟ်အရှင်မြတ်ထံတောင်းဆုချွေပြီး လမ်းမှန်တရားကို ရှာဖွေရမည်။ ၎င်းနောက် အလ္လာဟ်အရှင်မြတ်အတွက် ခယရိုကျိုးရမည်။ အလ္လာဟ်အရှင်မြတ်သည်သာ မိမိထံ လမ်းမှန်တောင်းခံသူကို လမ်းမှန်ချီးမြှင့်နိုင်သော အရှင်ဖြစ်သည်။

အမှန်တရားဘက်တော်သားများဖြစ်သော အဟ်လေ့စွန္နသ်ဝလ်ဂျမာအသ်များသည် အလ္လာဟ်အရှင်မြတ်ထံမှသာ လမ်းမှန်တရားကို ရှာဖွေကြသည်။ ကာကွယ်စောင့်ရှောက်ပေးသော လမ်းမှန်ပြသပေးသော ပေါ်လွင်ထင်ရှားသောလမ်းကိုရှာဖွေကြသည်။ ထို့ကြောင့်အလ္လာဟ်အရှင်မြတ်သည် ထိုသူများအား လမ်းမှန်တရားချီးမြှင့်ပြီး လမ်းလွဲလမ်းမှားခြင်းမှကာကွယ်ပေးသည်။လမ်းမှားသူများသည်မိမိတို့၏ အသိဉာဏ်နှင့်အထင်အမြင်၌သာ မွေ့ပျော်နေကြသည်။ အမှန်တရားအား အားအင်ချည့်နဲ့သောဖန်ဆင်းခံထံမှ ရှာဖွေကြသည်။ ထိုချည့်နဲ့သောအရာသည် အသိဉာဏ်ပင် ဖြစ်သည်။ အမြင်အာရုံသည် အလုံးစုံမမြင်နိုင်သလို အသိဉာဏ်သည်လည်း အလုံးစုံ မသိနိုင်သောကြောင့် ဖြစ်သည်။ထိုသူများသည် လက်မဲ့ဖြစ်ရသူများ၊ ချည့်နဲ့ကြသူများ၊ လမ်းမှားသူများ၊ လမ်းမှားအောင်လုပ်သူများဖြစ်သွားကြသည်။ ကိုယ်တော်သခင်ﷺ မိန့်တော်မူသည်။ မိမိကိုယ်မိမိသိသူသည် မိမိအား ဖန်ဆင်းမွေးမြူတော်မူသောအရှင်ကို သိသူသာဖြစ်သည်။ မိမိ၏ချည့်နဲ့မှုကို သိသူသည် အလ္လာဟ်အရှင်မြတ်၏တတ်စွမ်းနိုင်မှုကိုသိသူဖြစ်သည်။ ထိုသူသည် မိမိကိုယ်မိမိနှင့်မိမိ၏အသိဉာဏ်ပေါ်၌ အမှီမပြုတော့ပေ။ သို့သာမက အလ္လာဟ်အရှင်မြတ်ကိုသာ အားကိုးအားထားပြုမည်။ ထိုအရှင်မြတ်ထံ၌သာ အမှန်တရားကို ရှာဖွေမည်ဖြစ်သည်။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်အပေါ်၌ ယုံပုံအားထားပါက ထိုအရှင်မြတ်သည် ထိုသူအဖို့ လုံလောက်

သည်။ ထိုသူ့အား ဖြောင့်မတ်မှန်ကန်သော လမ်းကို ပြသမည်ဖြစ်သည်။ အကြင်သူ၌ ဥစ္စာပစ္စည်းရှိပါမူ ထိုသူသည် မတွန့်တိုသင့်ပေ။

အလ္လာဟ်အရှင်မြတ်ထံ၌ စေးနဲတွန့်တိုခြင်းမှကင်းရန် တောင်းဆုပန်သင့်သည်။ ကိုယ်တော်သခင်ﷺမိန့်တော်မူသည်မှာ စေးနဲတွန့်တိုခြင်းထက် ပိုဆိုးသည့်ရောဂါ အဘယ်မှာရှိမည်နည်း။ ရှိုင်ခ်အေမာမ် ရှမ်စွလ်အအင်မ်မဟ်ဟုလ်ဝါနီ၏ဖခင်သည် သူဆင်းရဲဖြစ်ခဲ့ပြီး အချို ရောင်းခဲ့သည်။ ဖိကဟ်ပညာရှင်ကြီးများအား အချိုမုန့်ပေးလေ့ရှိသည်။ ပညာရှင်များအား ကျွန်တော်မျိုး၏ သားအတွက် ဒုအာပြုပေးပါဟု လျှောက်ထားခဲ့သည်။ ထိုဖခင်ကြီး၏ရက်ရောမှု၊ ယုံကြည်မှုနှင့် ရို့ကျိုးမှု၏မင်္ဂလာကြောင့်သူ၏သားသည်ထိုက်ထိုက်တန်တန်ပညာရရှိခဲ့သည် ။ငွေကြေးဥစ္စာဖြင့်စာအုပ်များ ဝယ်ယူပေးသည်။ စာအုပ်ရေးဖို့ တောင်းဆိုသည်။ ထိုအချက်သည် ပညာသင်ယူခြင်းနှင့် ဖိကဟ်အသိပညာရရှိခြင်း၌ အထောက်အကူဖြစ်ခဲ့သည်။

အေမာမ်မုဟမ္မဒ်ဗင်န်ဟစန်ﷺသည် ငွေကြေးချမ်းသာ ကြွယ်ဝသူတစ်ယောက်ဖြစ်သည်။ မိမိ၏ငွေကြေးဥစ္စာအား ထိန်းသိမ်းရန် ကိုယ်စားလှယ် အယောက်(၃၀၀)ထိခန့်ထားရသော သူဌေးသူကြွယ်ကြီးဖြစ်သည်။ အေ့မာမ်ကြီးသည်ထိုဥစ္စာပစ္စည်းအားလုံးကို သာသနာ့ပညာနှင့် ဖိကဟ်ပညာရရှိခြင်း၌သုံးစွဲခဲ့သည်။ နောက်ဆုံးတွင်အေမာမ်ကြီးထံ၌ အဝတ်အစားကောင်းတစ်ထည်ပင် မကျန်တော့ပေ။ အေ့မာမ်အဘူယူစွဖ်ﷺသည် အေ့မာမ်မုဟမ္မဒ်ﷺအား အဝတ်အစားအဟောင်းဖြင့်မြင်

ခဲ့ရာ တန်ဖိုးကြီးသောအဝတ်အစားကောင်းများ ပေးပို့ပေးခဲ့သော်လည်း အေမာမ်မုဟာမ္မဒ်ﷺသည် လက်မခံခဲ့ပေ။ ထို့နောက်အေမာမ်မုဟာမ္မဒ်ﷺ အမိန့်ရှိသည်မှာ-အသင်တို့အတွက် ထိုအရာများသည် အလျင်အမြန်ပင် ချီးမြှင့်ခံရပြီး ကျွန်ုပ်တို့အတွက် နောက်ဆိုင်းခြင်းခံရသည်။ လက်ဆောင် လက်ခံခြင်းသည်စွန္နသ်ဖြစ်သော်လည်းအေမာမ်မုဟာမ္မဒ်ﷺလက်မခံခြင်း မှာထိုအဝတ်အစားကောင်းများ၌ မိမိအတွက် သေးသိမ်မှုရှိသည်ဟုခံယူ ထားသောကြောင့်ဖြစ်နိုင်သည်။ကိုယ်တော်သခင်ﷺမိန့်တော်မူသည်။

**"မုအ်မင်န်အဖို့ မိမိကိုယ်ကိုမိမိသေးသိမ်အောင်မလုပ်သင့်ပေ။"**

ရှိုင်ခ်ဖခ်ရွလ်အစ္စလာမ်အရ်စာဗင်န်ဒီးﷺထံမှ အကြောင်းအရာ ဆင့်ပြန်ခံရသည်မှာ---ဆရာကြီးသည် နေရာလွတ်တစ်ခု၌ စွန့်ပစ်ထား သော ဖရဲသီးစေ့များစုပြီး ဆေးကြော၍ စားခဲ့သည်။ ထိုအချင်းအရာကို ကျွန်မတစ်ယောက်မြင်သွားပြီး မိမိသခင်ထံ သတင်းပေးခဲ့သည်။ ထို အခါသခင်သည် ဆရာကြီးအတွက် အစားအစာအသင့်ပြင်ပြီး စားဖို့ ဖိတ် ခေါ်ရာ ဆရာကြီးသည် မိမိကိုယ်ကို မိမိသေးသိမ်အောင် မလုပ်မိစေရန် အတွက် လက်မခံခဲ့ပေ။

ဤနည်းအတိုင်းပင် ကျောင်းသားသည် လူတို့၏ဥစ္စာပစ္စည်း များအား တပ်မက်ခြင်းမရှိဘဲ ဖွဲလုံ့လဝီရိယ ကြီးမားသူဖြစ်သင့်သည်။ တမန်တော်မြတ်ﷺမိန့်တော်မူသည်မှာ-အသင်သည် လောဘရမ္မက်ကြီး ခြင်းကိုရှောင်ကြဉ်ပါ။ အကြောင်းမှာ ထိုလောဘရမ္မက်ကြီးခြင်းသည် ဆင်းရဲစေသည်။

ကျောင်းသားသည် မိမိထံတွင်ရှိသော ဥစ္စာပစ္စည်းကို မတွန့်တိုသင့်ပေ။ မိမိအတွက်သာမက အခြားသူအတွက်ပါ သုံးစွဲရမည်။ ကိုယ်တော်သခင်ﷺမိန့်တော်မူသည်။ လူအများသည် ဆင်းရဲမှုကို စိုးရိမ်သောကြောင့် ဆင်းရဲမှုထဲ၌သာ ရှိကြသည်။ ဟိဂ်ျရီ ပထမရာစုနှစ်၌ရှိသူများသည် လက်မှုပညာသင်ယူကြပြီး သာသနာ့ပညာ ဆည်းပူးကြသည်။ လူတို့၏ ဥစ္စာပစ္စည်းများအား မက်ဆန္ဒမထားကြပေ။ ဟိက်မဟ်ကျမ်း၌ လမ်းပေါ်ရှိ ဥစ္စာပစ္စည်းကိုလိုလားသူသည် ဆင်းရဲသူသာဖြစ်သည်။ **အာလင်မ်သာသနာ့ပညာရှင်**သည် **အလွန်လောဘရမ္မက်ကြီးသူ** ဖြစ်လျှင် **သာသနာ့ပညာ၏ဂုဏ်**သည် သူ့အတွက်မကျန်ရှိတော့ပဲ သူသည် **အမှန်မပြောနိုင်တော့ပေ။** ဤအတွက်ကြောင့် ရှရီအသ်ပွဲ့ကိုင်ရှင် မြတ်နဗီﷺသည် ထိုလောဘရမ္မက်ကြီးခြင်းမှ အမြဲခိုလှုံခွင့် တောင်းခံလေ့ရှိသည်။ ကိုယ်တော်သခင်ﷺသည်**أعوذ بالله من طمع يدني إلى طبع**ဤဒုအာဖတ်လေ့ရှိသည်။

**အဓိပ္ပာယ်**-ကျွန်တော်မျိုးသည် ပြစ်တင်ရှုံ့ချခြင်းဘက်သို့ တွန်းပို့ပေးသော လောဘရမ္မက်ကြီးခြင်းမှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံခွင့်တောင်းခံပါသည်။ မုအ်မင်န်သည် အလ္လာဟ်အရှင်မြတ်ထံမှသာ မျှော်လင့်ချက်ထားပြီး အလ္လာဟ်အရှင်မြတ်ကိုသာ ကြောက်ရွံ့သင့်သည်။ အလ္လာဟ်အရှင်မြတ်ကို မကြောက်ရွံ့ခြင်းသည် တရားတော်၏ သတ်မှတ်ချက်ကို ကျော်လွန်ခြင်း၊ သတ်မှတ်ချက်မရှိသည့်အရာကို ကျူးလွန်ခြင်းဖြစ်ကြောင်း ပေါ်လွင်နေသည်။ ဖန်ဆင်းခံကိုကြောက်ပြီး အလ္လာဟ်

အရှင်မြတ်အမိန့်ဖီဆန်သူသည် အလ္လာဟ်အရှင်မြတ်အပြင် အခြားအရာအား ကြောက်ရွံ့ရမည်သာဖြစ်သည်။ ဖန်ဆင်းခံကို ကြောက်ရွံ့သည့်အတွက် အလ္လာဟ်အရှင်မြတ် အမိန့်မဖီဆန်သူသည် တရားတော်၏သတ်မှတ်ချက်များအား ထိန်းသိမ်းစောင့်ရှောက်သူ ဖြစ်မည်။ အလ္လာဟ်အရှင်မြတ်ကိုသာ ကြောက်ပြီး အခြားအရာကို မကြောက်ပေ။ မျှော်လင့်မက်ထားခြင်းကဏ္ဍ၌လည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။ ကျောင်းသားသည် နောက်စာပြန်ကြေ့ချိန်၌ မိမိအတွက် အတိုင်းအတာ သတ်မှတ်၍ ရေတွက်သင့်သည်။ အကြောင်းမှာ-ကျောင်းသား၏ နှလုံးသားသည် ထိုအတိုင်းအတာရောက်မှသာ တည်ငြိမ်မည်။ သူဖတ်သောစာသည် အနည်ထိုင်မည်ဖြစ်သည်။ ကျောင်းသားသည် မနေ့ကသင်ခဲ့သောသင်ခန်းစာကို (၅)ခေါက်၊ ဟိုတစ်နေ့ကသင်ခဲ့သော သင်ခန်းစာကို (၄)ခေါက်၊ အဲ့အရင်တစ်ရက်ကသင်ခဲ့သော သင်ခန်းစာကို (၃)ခေါက်၊ ထိုရက်အရင်တစ်ရက်ကသင်ခဲ့သော သင်ခန်းစာကို (၂)ခေါက်၊ အရင်ရက်ကသင်ခဲ့သော သင်ခန်းစာကို(၁)ခေါက် ပြန်ကျေ့သင့်သည်။ ထိုသို့ကျေ့ပေးခြင်းသည် ကျက်မှတ်ရာ၌ ပို၍အထောက်အကူဖြစ်သည်။

နောက်စာပြန်ကျေ့ချိန်၌ အသံတိုးတိုးဖတ်ခြင်း အကျင့်ကိုမမွေးမြူသင့်ပေ။ သင်ခန်းစာနှင့် နောက်စာပြန်ကျေ့ခြင်း နှစ်ခုလုံးသည် အားအင်ပြည့်ဝတက်ကြွစွာဖြင့် ပြုလုပ်သင့်သောကြောင့်ဖြစ်သည်။ မိမိကိုယ်မိမိ ခက်ခဲအောင်လည်း အသံအကျယ်ကြီး မထုတ်သင့်ပေ။ နောက်စာပြန်ကျေ့ခြင်းမှ ပြတ်တောက်မသွားရ လေအောင်

ဖြစ်သည်။ အကြောင်းမှာ အကောင်းဆုံးကိစ္စရပ်များသည် အလယ်အလတ်လမ်းစဥ်ကိုကျင့်သုံးသော ကိစ္စရပ်များသာဖြစ်သည်။

အေမာမ်အဘူယူစွဖ်ﷺထံမှ အကြောင်းအရာတစ်ခု လာရှိသည်။ အေမာမ်ကြီးသည် ဖိကဟ်ပညာရှင်များနှင့်အတူ ဖိကဟ်ပညာရပ်အား လန်းဆန်းတက်ကြွအင်အားပြည့်ဝစွာဖြင့် ဆွေးနွေးလေ့ရှိခဲ့သည်။ အေမာမ်ကြီး၏ ယောက်ဖသည် အေမာမ်ကြီးထံ၌ ရှိပြီး အေမာမ်ကြီး၏ ကိစ္စရပ်အား အံ့သြနေလျက်ရှိ၍ ပြောပြသည်မှာ--- ကျွန်တော်သည် အေမာမ်ကြီး (၅)ရက်အလျင်ကတည်းက ဗိုက်ဆာနေသူဖြစ်ကြောင်း သိရှိထားသူဖြစ်သည်။ ထိုဗိုက်ဆာခြင်းနှင့်အတူ အေမာမ်ကြီးသည် တက်ကြွအားအင်ပြည့်ဝစွာဖြင့် ပညာရပ်ကိုဆွေးနွေးသည်။

ကျောင်းသားအတွက် အားလပ်ရက်မရှိသင့်ပေ။ ထိုအားလပ်ရက်သည်ကျောင်းသား၏ကပ်ဘေးဆိုးကြီးဖြစ်သည်။ ကျွန်ုပ်တို့၏ဆရာ ရှိုင်ခွလ်အစ္စလာမ်ဘုရ်ဟာနွဒ္ဒီးန်ﷺ မိန့်လေ့ရှိသည်။ ကျွန်တော်သည် မိမိသူငယ်ချင်းများထက် **သာပိုထွန်းတောက်**ခဲ့သည်မှာ ပညာသင်ယူရာ၌ **အားလပ်ချိန်** မယူခဲ့၍ဖြစ်သည်။

ရှိုင်ခွလ်အစ္စလာမ်အတ်စ်ဗီဂျာနီﷺထံမှအကြောင်းအရာဆင့်ပြန်ခံရသည်။ ဆရာကြီးသည် ပညာသင်ယူဆည်းပူးချိန်၌ မင်းပြောင်းမင်းလွှဲမှုရှိသောကြောင့် (၁၂နှစ်)တာကာလ သင်ယူမှုမှ ပြတ်တောက်သွားခဲ့သည်။ သို့ရှိရာ ဆရာကြီးသည် မိမိသူငယ်ချင်းနှင့်အတူ သာသနာ့ပညာအမြဲရှာဖွေနိုင်ဖို့ ဆွေးနွေးဝိုင်းများတွင် ပါဝင်ခဲ့သည်။ ထိုသူငယ်ချင်း

နှစ်ဦးသည် အတူတကွ (၁၂)နှစ်သင်ယူခဲ့သည်။ ဆရာကြီး၏မိတ်ဆွေ သူငယ်ချင်းသည်ရှာဖီအီမဇ်ဟဗ်ဝင်များအဖို့ ရှိုင်ခွလ်အစ္စလာမ် ဖြစ်သွား ပြီးဆရာကြီးသည် ရိုးရိုးရှာဖီအီမဇ်ဟဗ်ဝင်သာဖြစ်ခဲ့သည်။ (၁၂)နှစ်တာ ကာလတွင် မိုးနဲ့မြေကွာခြားခြင်းပင်ဖြစ်သည်။

ကျွန်ုပ်တို့၏ဆရာ ရှိုင်ခ်ကာသွိအေမာမ်ဖခ်ရွဒ္ဒီးန်ကာသွိခန်း ﵀ မိန့်လေ့ရှိသည်။ ဖိကဟ်ပညာ သင်ယူဆည်းပူးသူအဖို့ ဖိကဟ်ကျမ်းစာ များထဲမှ တစ်အုပ်ကို အမြဲကျက်မှတ်သင့်သည်။ ကျက်မှတ်ပြီးသည့် နောက် မိမိကြားသမျှ ဖိကဟ်ပညာကို မှတ်ရာ၌လွယ်စေရန်ဖြစ်သည်။



## အခန်း (၇)
## ယုံပုံအားထားခြင်း

ကျောင်းသားသည် ပညာသင်ယူဆည်းပူးရာ၌ အလ္လာဟ်အရှင် မြတ်အား ယုံပုံအားထားရန် အရေးကြီးသည်။ စားနပ်ရိက္ခာကိစ္စကို တွေး မပူသင့်ပေ။ မိမိ၏နှလုံးသားကို ရိက္ခာမက်ခြင်းဖြင့် မမွေ့လျော်သင့်ပေ။ အေမာမ်အဘူဟနီဖွာဟ်﵀သည် ကိုယ်တော်သခင်ﷺ၏ အဆွေတော်

ဟာဇရသ်အဗ်ဒွလ္လာဟ်ဗင်န်ဟာစန်ﷺထံမှ ဆင့်ပြန်ခဲ့သည်။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်အား နှိုက်နှိုက်ချွတ်ချွတ် နားလည်လာခဲ့လျှင် အလ္လာဟ်အရှင်မြတ်သည် ထိုသူ၏ ရည်ရွယ်ချက်အား လုံလောက်စေတော်မူ၍ ထိုသူ မထင်မှတ်ထားသောနေရာမှ ရိဇ္ဇီရိက္ခာချီးမြှင့်တော်မူမည် ဖြစ်သည်။ အကြင်သူ၏ နှလုံးသားသည် စားဝတ်နေရေးကိစ္စနှင့် မွေ့လျော်နေပါမူ အဆင့်အတန်းမြင့်မားသော အလုပ်ကိစ္စများ၊ စံထားလောက်သော ကိုယ်ကျင့်တရားများ ရရှိဖို့ရန် အတွက် အာရုံစိုက်မှု နည်းသွားမည် ဖြစ်သည်။

ပညာရှင်များပြောကြသည်မှာ-ဂုဏ်သိက္ခာမြောက် ကိစ္စရပ်များကို အသင့်အနေဖြင့် လက်လွှတ်ထားပါ၊ ရှာဖွေရန်လည်း ခရီးမထွက်နဲ့ ၊ အသင့်အိမ်တွင်သာ ထိုင်နေပါ၊ အသင်သည် ကစားဖို့နှင့် ဝတ်ဖို့သာ ရှာဖွေနေသည့်သူဖြစ်သည်။ ဂုဏ်သိက္ခာရှိသည့်ကိစ္စများသည် အသင်နှင့် လားလားမျှမသက်ဆိုင်ပေ။

ပုဂ္ဂိုလ်တစ်ယောက်သည် မန်စူးရ်ဟာလ္လားဂျ်သခင်အား အသင်ကျွန်ုပ်ကိုမှာတမ်းပါဟု လျှောက်ထားခဲ့သည်။ သခင်ကြီးက ကျွန်ုပ်မှာတမ်းမည့်အရာသည် အသင်၏ နဖ်စ်စိတ်ရိုင်းဖြစ်ပြီး အသင်သည် ထိုစိတ်ရိုင်းကိုမခိုင်းပါက ထိုစိတ်ရိုင်းသည် အသင့်အား ပြန်ခိုင်းမည် ဖြစ်သည်။ သို့ရှိရာတစ်ယောက်တိုင်းသည် မိမိ၏စိတ်ရိုင်းအား စိတ်အလိုကျ မလိုက်ရလေအောင် ကောင်းသောအလုပ်ကိစ္စများ၌ မွေ့လျော်ရန် ဆော်ဩသင့်သည်။ အသိဉာဏ်ရှိသူသည် လောကီကိစ္စကို စိတ်မဝင်စား

သည်သာမက တွေး၍ပင် မပူချေ။ အကြောင်းမှာ တွေးပူခြင်း၊ ဝမ်းနည်းခြင်းသည် ဒုက္ခအား မဖယ်ရှားနိုင်သလို ကောင်းကျိုးလည်း မပေးနိုင်ချေ။ သို့သာမက ကိုယ်၊ စိတ်၊ နှလုံး သုံးပါးလုံးကို ဆိုးကျိုးပေးပြီး ကောင်းသော အလုပ်ကိစ္စများကို ဟန့်တားသည်။ တမလွန်ရေးရာကိစ္စကို စိတ်ဝင်စားခြင်းသည် ကောင်းကျိုးရှိသည်။ ကိုယ်တော်သခင်ﷺ၏ မိန့်မှာချက်မှာ- အပြစ်များအား ကဖ္ဖာရဟ် (အစားပေးသောအရာ)သည် ဘဝနေထိုင်မှုအား သောကထားခြင်းပင်ဖြစ်သည်။ ဆိုလိုသည်မှာ သောကထားခြင်း၏အတိုင်းအတာသည် ကောင်းသောအလုပ်ကိစ္စများအား အဟန့်အတား မဖြစ်စေသော အတိုင်းအတာ ဖြစ်ရမည်။ နမာဇ်ထဲ၌ နှလုံးသား၏အာရုံစိုက်ခြင်းကို ဟန့်တားစေမည့် အလုပ်ရှုပ်ခြင်းမျိုး နှလုံးသားကို မမွေ့လျော်စေရပေ။ အကြောင်းမှာ ထိုရည်စူးချက်နှင့် သောက၏အတိုင်းအတာသည် တမလွန်အရေးကိစ္စများထဲမှ ဖြစ်သည်။

ကျောင်းသားသည် တတ်နိုင်သလောက် လောကီရေးရာကိစ္စများနှင့် ဆက်နွယ်နေသောအရာများကို လျှော့လုပ်ဖို့ရန် အရေးကြီးသည်။ ဤအတွက်ကြောင့် ပညာရှင်များသည် တစ်ကိုယ်ထဲနေခြင်းကို ရွေးချယ်ခဲ့ကြသည်။ သာသနာ့ပညာ သင်ယူရေးခရီးစဉ်၌ အခက်အခဲနှင့်ပင်ပန်းနွမ်းနယ်မှုကို ခါးစည်းခံဖို့အရေးကြီးသည်။ တမန်တော်မူစာ ﷺ ပညာရေးခရီးစဉ်၌ မိန့်ခဲ့သလိုပင် ဖြစ်သည်။ ထိုကိစ္စအား အခြားကျမ်းဂန်များ၌ မဖော်ပြထားပဲ ကုရ်အာန်ကျမ်းမြတ်၌သာ မိန့်ဆိုထားသည်။ မုချက္ကျန်ပ်တို့သည် ဤခရီးစဉ်မှ ပင်ပန်းမှုဒဏ် ခံခဲ့ရပြီးပြီ ဖြစ်

သည်။ (စူရာဟ်ကဟ်ဖ်:၆၂) သင်ကြားရေးခရီးစဉ်၌ ပင်ပန်းမှုမကင်းနိုင်ကြောင်းသိဖို့ရန်ဖြစ်သည်။ အကြောင်းမှာ သာသနာ့ပညာသည် ကိစ္စကြီးတစ်ခုဖြစ်သည်။ ထိုသာသနာ့ပညာရှာဖွေခြင်းသည် ပညာရှင်အများစုထံ၌ ဂျိဟားဒ် ထက်ပိုမြတ်သည်။ ပင်ပန်းမှု၊ ခက်ခဲမှုအတိုင်းအတာနှင့်အညီ အကျိုးခံစားရမည်။ သို့ရှိရာ အကြင်သူသည် ထိုသာသနာ့ပညာရှာဖွေရေးခရီးစဉ်၌ အခက်အခဲများကို ကြံ့ကြံ့ခိုင် ရပ်တည်ခဲ့ပါမူ ထိုသူသည် လောကီအရသာများထက် သာပိုထူးကဲသည့် အရသာကို ခံစားရမည်ဖြစ်သည်။ ဤအတွက်ကြောင့် အေမာမ်မုဟမ္မဒ်ဗင်န်ဟစန်ﷺသည် ညမအိပ်ဘဲနေသောအခါ အခက်အခဲများသည် အေမာမ်မုဟမ္မဒ်ﷺအဖို့ ပြေလျော့သွားသည်။ ဤည၏ အရသာများခံနေသောဘုရင့်သားသမီးများ ဘယ်မှာလဲဟု မိန့်လေ့ရှိသည်။

ကျောင်းသားသည် ပညာအပြင် အခြားအရာတစ်ခုခု၌ မလုံးပမ်းသင့်ပေ။ ဖိကဟ်ပညာမှလည်း ကျောမခိုင်းသင့်ပေ။ အေမာမ်မုဟမ္မဒ်ဗင်န်ဟစန်ﷺမိန့်သည်။ ဤသာသနာ့ပညာ သင်ကြားခြင်း အလုပ်သည်ပုခက်အတွင်းမှ သင်္ချိုင်းအတွင်းထိ ဖြစ်သည်။ သို့ရှိရာ အကြင်သူသည်ကျွန်ုပ်တို့၏ ဤပညာရပ်ကို တစ်နာရီလောက် စွန့်လွှတ်ဖို့ ဆန္ဒထားခဲ့ပါမူ ဤနာရီမျှသာ စွန့်လွှတ်ရမည်။

အေမာမ်အဘူယူစွဖ်ﷺသည် ကွယ်လွန်ရာပါရောဂါ ခံစားနေရချိန်၌ ဖိကဟ်ပညာရှင်တစ်ဦးသည် အေမာမ်ကြီးအား လူမမာမေးရန်အခစားဝင်ရောက်ခဲ့သည်။ ထိုသူသည် မိမိကိုယ်ကိုမိမိ အကောင်းမြင်သူ

ဖြစ်သည်။ အေမာမ်အဘူယူစွဖ်ﷺသည် သူ့အား လမ်းလျှောက်လျက် ရှိုင်သွာန်ခဲပေါက်သည်က မြတ်သလား (သို့မဟုတ်) အစီးအနင်း စီးနင်းလျက် ခဲပေါက်ခြင်းက ပိုမြတ်သလားဟုမေးရာ ထိုသူသည် အဖြေမသိခဲ့ခြင်းကြောင့် အေမာမ်ကြီး ကိုယ်တိုင်ပင် ဖြေပေးခဲ့သည်။ ဤနည်းအတိုင်းပင် ဖိကဟ်ပညာရှင်များသည် အချိန်တိုင်း ဖိကဟ်ပညာ၌သာ မွေ့လျော်သင့်သည်။ ထိုအချိန်၌ ထိုဖိကဟ်ပညာရှင်သည် မိမိ၏ဤကိစ္စရပ်ထဲ၌ အလွန်ကောင်းမွန်သော အရသာကို ခံစားရမည်ဖြစ်သည်။

ပညာရှင်များပြောကြသည်မှာ- အေမာမ်မုဟမ္မဒ်ﷺ သေဆုံးကွယ်လွန်ပြီးနောက် အိပ်မက်၌ မြင်မက်ခံခဲ့ရသည်။ အသင်သည် ကွယ်လွန် သေဆုံးခါနီးအချိန်၌ ဘယ်လိုအခြေအနေ ရှိခဲ့ပါသလဲဟု အေမာမ်ကြီးအား မေးလျှောက်ကြရာ အေမာမ်ကြီးကမိန့်သည်မှာ ကျွန်ုပ်သည် မုကာသဗ်ကျွန်၊ မင်းငါ့ကိုဘယ်လောက် ရှာပေးသူကောင်း ပြုမယ်ဆိုသည့် ကျွန်၏ပြဿနာချက်များထဲမှ ပြဿနာချက်တစ်ခု၌ စဉ်းစားနေခဲ့သည်။ သို့ရှိရာ ကျွန်ုပ်၏ဝိဉာဉ်ထွက်ခြင်းကို မခံစားရပေဟု ဖြေကြားခဲ့သည်။

ပညာရှင်များပြောကြသည်မှာ- အေမာမ်မုဟမ္မဒ်ﷺသည် မိမိ၏နောက်ဆုံးအချိန်၌ ဤသို့အမိန့်ရှိသည်။ မုကာသဗ်ကျွန်၏ပြဿနာချက်များသည် ကျွန်ုပ်အား ဤနေ့အတွက် ပြင်ဆင်ခြင်းမှ မွေ့လျော်စေခဲ့သည်။ ဤသို့မိန့်ခြင်းသည် ရို့ကျိုးသောအနေဖြင့် ဖြစ်သည်။



## အခန်း (၈)
## ပညာသင်ယူရမည့် အချိန်အတိုင်းအတာ

ပညာရှင်များပြောကြသည်မှာ- ပညာသင်ယူခြင်း၏ အချိန်ကာလသည် ပုခက်အတွင်းမှ သင်္ချိုင်းအတွင်းထိ ဖြစ်သည်။ အမွန်မြတ်ဆုံးသောအချိန်များသည် **နပျိုမှု၏အစကနဦးချိန်၊ စဲဟ်ရီနှင့် အေရှာအ်** နှစ်ခုကြား၌ရှိသောအချိန်တို့ ဖြစ်သည်။ အေရှာအ်နှစ်ခုဆိုသည်မှာ မဂ်ရိဗ်နှင့် အေရှာအ်ကို ခေါ်ခြင်းဖြစ်သည်။

ကျောင်းသားသည် မိမိ၏အချိန်တိုင်းအား ပညာရပ်များနှင့် လွှမ်းခြုံထားသင့်သည်။ ပညာရပ်တစ်ခုမှ ငြီးငွေ့လာသောအခါ နောက်ပညာရပ်တစ်ခုတွင် မွေ့လျော်ရမည်။ ဟဇရသ်အိဗ်နုအဗ္ဗားစ်ﷺသည် علم الكلامဒဿနိကပညာရပ်မှ ငြီးငွေ့လာသောအခါ အသင်တို့ ကဗျာဆရာများ၏ စာအုပ်ကို ယူလာကြပါဟု မိန့်လေ့ရှိသည်။ အေမာမ်

မုဟမ္မဒ်ဗင်န်ဟစန်ﷺသည် ညအိပ်လေ့မရှိဘဲ မိမိထံ၌မှတ်စုစာအုပ်များ ထားလေ့ရှိပြီးအမျိုးအစားတစ်မျိုးမှငြီးငွေ့လာသောအခါနောက်တစ်မျိုး အား ကြည့်လေသည်။

## အခန်း (၉)
## အကောင်းလိုလားခြင်းနှင့် သနားကြင်နာခြင်း

သာသနာ့ပညာရှင်သည် သနားကြင်နာပြီး အကောင်းလိုလား သောသူ ဖြစ်သင့်သည်။ မနာလိုဝန်တိုသောသူ မဖြစ်သင့်ပေ။ မနာလိုဝန် တိုခြင်းသည် ဆိုးကျိုးသာရှိပြီး ကောင်းကျိုးမရှိပေ။ ကျွန်ုပ်တို့၏ဆရာ ရှိုင်ခွလ်အစ္စလာမ်ဘုရ်ဟာနွဒ္ဒီးန်ﷺ မိန့်လေ့ရှိသည်မှာ ဆရာ၏သားအာ လင်မ်ဖြစ်ခြင်းမှာ ဆရာသည် မိမိ၏တပည့်များ အာလင်မ်ဖြစ်ဖို့ လို လားသည့်အတွက် ဖြစ်သည်။ ဆရာ၏ယုံကြည်မှုနှင့် သနားကြင်နာမှု ၏ မင်္ဂလာကြောင့် သူ့သားသည် အာလင်မ်ဖြစ်သွားသည်။

ခေါင်းဆောင်ကြီး ဘုရ်ဟာနွလ်အအင်မ်မဟ်ﷺ သည် မိမိ၏ သားနှစ်ယောက်ဖြစ်သော ဆွဒ်ရွှ်ရှဟီးဒ်ဟုစာမွဒ္ဒီးန်နှင့် ဆွဒ်ရွှစ္စအီးဒ် သာဂျဒ္ဒီးန်ﷺတို့အတွက် သင်ခန်းစာပို့ချမှု အချိန်ကို သင်ခန်းစာများ အား လုံး ပြီးမြောက်ပြီးနောက် နေမြင့်ချိန်၌ ပြုလုပ်ခဲ့ကြောင်း ပြောပြခဲ့သည်။ ထိုသားနှစ်ဦးက ပြောလေ့ရှိသည်မှာ ကျွန်ုပ်တို့၏ ဗီဇသဘာဝသည် ထို အချိန်၌ ငြီးငွေ့သွားကြသည်။ သို့ရှိရာ သူတို့နှစ်ဦး၏ ဖခင်ကြီး မိန့်သည်

မှာ- တိုင်းတစ်ပါးသားများ၊ လူကြီးသူမများ၏ သားသမီးများသည် အနယ်နယ်အရပ်ရပ်မှ ငါ့ထံသို့လာကြရာ ငါသည် သူတို့ကို ဦးစွာပထမ သင်ခန်းစာပို့ချမည်။ ဆရာကြီး၏ သနားကြင်နာမှု မင်္ဂလာကြောင့် သူ့သားနှစ်ယောက်သည် သူ့ခေတ်သူ့အခါ၌ရှိသော ဖိကဟ်ပညာရှင်အများစုထက် သာပိုကျော်ကြားသွားသည်။

တစ်ဦးတစ်ယောက်နှင့်မှ ခိုက်ရန်ဖြစ်ပွားခြင်း၊ အချင်းများခြင်း မရှိသင့်ပေ။ အကြောင်းမှာ ခိုက်ရန်ဖြစ်ပွားခြင်းသည် အချိန်ဖြုန်းခြင်း သက်သက်ဖြစ်သည်။ အကောင်းပြုသူသည် ကောင်းသည့်အစား ချီးမြှင့်ခြင်းခံရမည်ဖြစ်ပြီး အဆိုးပြုသူသည် သူ၏ဆိုးခြင်းက သူ့အတွက် လုံလောက်သည်။ အေမာမ်ခဝါဟိရ်ဇာဒဟ်ဟု ကျော်ကြားသော ရှိုင်ခ်ရက်နွလ်အစ္စလာမ်မုဟမ္မဒ်ဗင်န်အဘီဘက်ရ်ﷺက-- ကျွန်ုပ်အား ကဗျာဖတ်ပြ၍ ပြောပြသည်မှာ------ စွလ်သွာနွရ်ရှရီအဟ်ယူစွဖ်ဟမ်ဒါနီﷺက ကျွန်ုပ်အား ကဗျာဖတ်ပြခဲ့သည်။ အသင်သည် ဘယ်လူသားကိုမှ သူ့လုပ်ရပ်ဆိုးအပေါ် အစားမယူပါနှင့်။ သူလုပ်ခဲ့သော လုပ်ရပ်ဆိုး၌ရှိသော အရာသည် ထိုသူ့အဖို့လုံလောက်သည်။

အကြင်သူသည် မိမိရန်သူအား နှာခေါင်းရှုံ့စေချင်ပါမူ ဤကဗျာကို အကြိမ်ကြိမ်ဖတ်ပါ။ အသင်သည် မိမိရန်သူအား နှာခေါင်းရှုံ့စေချင်ရုံသာမက ဝမ်းနည်းကြေကွဲသူအဖြစ် သေဆုံးချင်စေပါမူ ပူဆွေးသောက မီးလောင်မြိုက်စေချင်ပါမူ အသင်သည် မြင့်မားသော အသိပညာကို

ရှာဖွေဆည်းပူးပြီး အသိပညာ တိုးပွားအောင်လုပ်ပါ။ အသိပညာ တိုးလာသူအဖို့ မနာလိုဝန်တိုသူ၏ သောကလည်းတိုးလာမည်ဖြစ်သည်။

အသင်သည် မိမိ၏စိတ်ကို ပြုပြင်ပြောင်းလဲပေးမည့် ကောင်းသောအရာများ၌ မွေ့လျော်ရန် အရေးကြီးသည်။ ရန်သူအား လွှမ်းမိုးခြင်း၌ မဟုတ်ပေ။ အကြောင်းမှာ အသင်သည် မိမိစိတ်ကို ပြုပြင်ပြောင်းလဲပေးမည့် ကောင်းသောအရာများ ဆောင်ရွက်ပါက ထိုသို့ဆောင်ရွက်ခြင်းသည်ပင် ရန်သူအား လွှမ်းမိုးစေသည်။ အသင်သည် ရန်ပြုခြင်းအား ရှောင်ရှားပါ။ အကြောင်းမှာ ရန်ပြုခြင်းသည် အသင့်ကို အရှက်ရစေသောအရာနှင့် အသင့်အချိန်များအား ဖြုန်းတီးစေသော အရာသာဖြစ်သည်။ အသင်သည် အထူးသဖြင့် ‌တော်းများရှေ့တွင် ကြံ့ကြံ့ခံ ရပ်တည်ပါလေ။ တမန်တော်အီစာﷺအမိန့်ရှိသည်။ အသင်တို့သည် ‌တော်းထံမှ (၁၀)ခုသော အမြတ်ရလေအောင် တစ်ခုသောအရာကို ကြံ့ကြံ့ခံပါ။ လူအချို့၏ကဗျာကို ကျွန်တော်ရွတ်ပြမည်။ ကျွန်တော်သည် လူများအား ရာစုနှစ်တစ်ခုပြီး တစ်ခုစမ်းသပ်ခဲ့ရာ အလွန်လှည့်ဖြားသူနှင့် မုန်းတီးသူအပြင် အခြားသူကိုမတွေ့ခဲ့ပါ။ ကျွန်တော်သည် ကိစ္စရပ်များထဲ၌ အမျိုးသား၏ ရန်လိုမှုထက် ပိုခက်သော၊ ပိုပြင်းပြင်းထန်ထန်ကျရောက်သောအရာကို မတွေ့ခဲ့ပါ။ ကျွန်တော်သည် အရာဝတ္ထုများ၏ ခါးသီးမှုအရသာကို တစ်စိတ်တစ်ဒေသမြည်းစမ်းခဲ့ရာ တောင်းခံခြင်းထက် ပိုခါးသောအရာ တစ်ခုမှမမြည်းစမ်းခဲ့ဘူးချေ။

အသင်သည် မုအ်မင်န်များအား မကောင်းထင်မြင်ခြင်းမှ ရှောင်ပါ။ ထိုသို့ ထင်မြင်ခြင်းသည် ရန်လိုမှု ဖြစ်စေသည်။ ထိုသို့ထင်မြင်ခြင်း မပိုင်ပေ။ ကိုယ်တော်မြတ်ﷺက အသင်တို့သည် မုအ်မင်န်များအား အကောင်းထင်မြင်ကြပါဟု မိန့်တော်မူထားသည့် အတွက်ကြောင့်ဖြစ်သည်။ ထိုသို့မကောင်းထင်မြင်မှုသည် ယုတ်ညံ့သောနိယသ်နှင့် ဗီဇမကောင်းခြင်းမှ ဖြစ်ပေါ်လာသည်။ အဘူသွိုင်ယိဗ် ပြောသလိုပင်ဖြစ်သည်။ လူပုဂ္ဂိုလ်၏လုပ်ရပ်သည် ဆိုးရွားလာသော် သူ၏အထင်အမြင်များလည်း ဆိုးရွားလာသည်။ ထင်ယောင်ထင်မှားမှုအား ထောက်ခံခြင်းသည် သူ့ဓလေ့ဖြစ်သွားမည်။ ရန်လိုသောစကားများနှင့် ချစ်သူများအား ရန်ပြုမည်။ ထိုသူ၏ နံနက်ခင်းသည် လမိုက်ည၏သံသရာ ဝဲဂယက်ထဲ၌ရှိနေမည်။ ဆိုလိုသည်မှာ ထိုသူသည် ထင်ယောင်ထင်မှား ဖြစ်နေသောကြောင့် ကိစ္စရပ်တိုင်း၌ တွေဝေနေမည်။

ကျွန်တော်သည် အချို့သူများ၏ ကဗျာရွတ်ပြမည်။ သင်သည် မကောင်းသောအရာမှ ရှောင်ပါ။ ထိုအရာကို မလိုလားလေနှင့်။ အသင်သည် မည်သူ့ကို ကောင်းကောင်းဆက်ဆံမလဲ သာပို၍ ကောင်းစွာဆက်ဆံပါ။ အသင်သည် မိမိရန်သူ၏ ပရိယာယ်တိုင်းမှ ကာကွယ်ခြင်းခံရမည်။ ရန်သူပရိယာယ်ဆင်သောအခါ အသင်ပရိယာယ် မဆင်လေနှင့်။

ကျွန်တော်သည် ရှိုင်ခွလ်အမီးဒ်အဘူလ်ဖသ်ဟ်ဘွစ်သီ ﵀ ၏ ကဗျာရွတ်ပြမည်။ အသိဉာဏ်ရှိသူသည် မိမိအား ခက်ခက်ထန်ထန်၊

ညှင်းပမ်းနှိပ်စက်စွာ ဆက်ဆံသော ငတုံးရန်မှမကင်းပေ။ ထိုသို့ပြုမူ ဆက်ဆံလာပါက ငတုံးကို တိုက်ခိုက်ခြင်းထက် ငြိမ်းချမ်းမှုကိုသာ ဦးစားပေးပါ။ အမြဲတမ်းနှုတ်ဆိတ်စွာနေပါ။

## အခန်း (၁၀)

## အကျိုးခံစားခြင်း

ကျောင်းသားသည် အသိတိုးစေရန် အချိန်တိုင်း၌ အကျိုးခံစားသောသူ ဖြစ်သင့်သည်။ အကျိုးခံစားမှု၏ နည်းလမ်းမှာ ကျောင်းသားသည် မိမိကြားသမျှ အကျိုးကျေးဇူးများရေးဖို့ မိမိနှင့်အတူ အချိန်တိုင်း၌ မှင်အိုးရှိရမည်။ ပညာရှင်များ ပြောကြသည်မှာ-ကျက်ထားသော အရာသည် မေ့သွားသည်။ ရေးထားသော အရာတစ်ခုသည် တည်မြဲသည်။ မြန်မာစကားပုံ **"နှုတ်တစ်ရာစာတစ်လုံး"** လိုဖြစ်သည်။ ပညာသည် ပညာရှင်ကြီးများ၏ နှုတ်မှ သင်ယူရသည်။ ထိုပညာရှင်ကြီးသည် မိမိတို့ကြားသော အရာများကို အကောင်းဆုံး မှတ်သားထားပြီး မိမိတို့ မှတ်သားထားသော အကောင်းဆုံးအရာများကိုသာ ပြောကြသောကြောင့် ဖြစ်သည်။

ရွေးချယ်ခြင်းခံရသော ရသစာပေပညာရှင်ဟု ကျော်ကြားသော ရှိုင်ခ်အေမာမ်အဒီးဗ်ဇိုင်နွလ်အစ္စလာမ်မိန့်တာကို ကျွန်ုပ်ကြားခဲ့ဖူးသည်။ ဟာဇရသ်ဟော့လားလ်ဗင်န်ယဆားရ်ﷺပြောပြသည်။ ကျွန်ုပ်သည် ကိုယ်

တော်သခင်ﷺက မိမိ၏ အဆွေတော်များအား အသိပညာနှင့် ဟဒီးဆ်ပညာရပ် တစ်စုံတစ်ရာမိန့်နေသည်ကိုမြင်ခဲ့ရာ ကိုယ်တော်သခင်ﷺထံ လျှောက်ထားသည်။ အို...ကိုယ်တော် ကျွန်တော်မျိုးအား ထပ်မံမိန့်ကြားပါ။ ထိုအခါ ကိုယ်တော်သခင်ﷺက ကျွန်တော်မျိုးအား မိန့်သည်မှာ- အသင်နှင့်အတူ မှင်အိုးရှိပါသလော။ ကျွန်တော်မျိုးသည် မရှိပါဟု လျှောက်ထားရာ ကိုယ်တော်သခင်ﷺက အိုဟေ့လားလ်၊ အသင်သည် မှင်အိုးနှင့် မခွဲမခွာနေပါ။ အကြောင်းမှာ ကေယာမသ်နေ့အထိ ကောင်းခြင်းများသည် ထိုမှင်အိုးများ၊ ထိုမှင်အိုးပိုင်ဆိုင်သူများထံ၌ ရှိ သည်။

ဆွဒ်ရှရ်ရှဟီးဒ် ဟုစားမွဒ္ဒီးန်သည် မိမိ၏သား ရှမ်စွဒ္ဒီးန်အား နေ့စဉ်နေ့တိုင်း သာသနာ့ပညာနှင့် ဟဒီးဆ်ပညာရပ်ထဲမှ မပြောပလောက်သောအရာကို ကျက်မှတ်ရန် မှာတမ်းခဲ့သည်။ အကြောင်းမှာ များမကြာမီ ကျက်ထားသော အရာများသည် များလာမည်။ အိဆွားမုဗ်နုယူစွဖ်သည် လက်တလော မိမိကြားသမျှကို ရေးဖို့ရန်အတွက် ကလောင်တံ တစ်ချောင်းကို ဒိရ်ဟမ်ငွေဒင်္ဂါးတစ်ပြားဖြင့် ဝယ်ခဲ့သည်။ အကြောင်းမှာ ဘဝသက်တမ်းသည် တိုတိုလေးဖြစ်ပြီး အသိပညာသည် အများကြီးဖြစ်သည်။ ထို့ကြောင့် မိမိ၏အချိန်များအားမဖြုန်းဘဲညများ၊ လစ်လပ်သော အချိန်များကို မိမိရရအသုံးချရမည်။

ယဟ်ယားဗင်န်မုအားဇ်ရာရှီﷺထံမှ ဆင့်ပြန်ချက်လာရှိသည်။ ဆရာကြီးကမိန့်သည်။ ညတာသည် ရှည်လျားသည်။ အသင်သည် မိမိ၏ အိပ်ခြင်းနှင့် တိုတောင်းအောင်မလုပ်လေနှင့်။ နေ့သည် အလင်းပေး

သည်။ အသင်သည် မိမိ၏အပြစ်များဖြင့် နောက်ကျိအောင် မလုပ်လေ နှင့်။ ရှိုင်ခ်များထံမှ အကျိုးခံစားပြီး အခွင့်အရေးကို မိမိရရ အသုံးချသင့် သည်။ လွတ်သွားသောအရာ ကုန်ဆုံးသွားသောအချိန်သည် ပြန်မလာ ပေ။

(အင်္ဂလိပ်အဆိုတစ်ခု ရှိသည်။ **(Time and Tide Wait For No Man) အချိန်နှင့်ဒီရေသည် လူကိုမစောင့်ပေ။)**

ကျွန်ုပ်၏ဆရာ ရှိုင်ခွလ်အစ္စလာမ် ဘုရ်ဟာနွဒ္ဒီးန်ﷺ မိန့်တော်မူခဲ့ သည်မှာ ကျွန်ုပ်သည် မိမိတွေ့ခဲ့သော ဆရာသခင်ကြီးများ၏ သတင်းကို မမေးခဲ့ပေ။ ကျွန်တော်သည် ဤလွတ်သွားသော အခွင့်အရေးအပေါ် နှမြောတသပြီး ဤကဗျာရွတ်ဆိုလေ့ရှိသည်။

ဆရာသခင်ကြီးနှင့်တွေ့ပြီး အကြောင်းအရာ မမေးလိုက်ရခြင်းသည် ငါ့ အတွက် အလွန်ဝမ်းနည်းရလေခြင်း ကြုံဆုံခဲ့သမျှ အရာတိုင်း ပျက်စီး ဆုံးရှုံးပြီး အခွင့်အရေး လက်မဲ့ဖြစ်ခြင်းက အို...ဝမ်းနည်းကြေကွဲရလေ ခြင်း။

ဟဇရသ်အလီﷺသခင်မိန့်သည်။ အသင်သည် အလုပ်တစ်ခုထဲ ၌ရှိပါက ထိုအလုပ်ကို ပြီးပြည့်စုံအောင် လုပ်ပါ။ အလ္လာဟ်အရှင်မြတ်၏ ပညာကို ကျောခိုင်းခြင်းဖြင့် ပျက်စီးဆုံးရှုံးဖို့ လုံလောက်သည်။ အသင် သည် ထိုကျောခိုင်းမှုနှင့် ပတ်သက်၍ အလ္လာဟ်အရှင်အမြတ်ထံ၌ နေ့ ရောညပါ ခိုလှုံခွင့်တောင်းခံပါ။

ကျောင်းသားသည် ပညာသင်ယူဆည်းပူးရာ၌ သေးသိမ်မှုနှင့် ဒုက္ခအခက်အခဲကို ခါးစည်းခံဖို့ အရေးကြီးသည်။ ကပ်ဖားရပ်ဖားခြင်း သည် ပြစ်တင်ရှုံ့ချဖွယ် ကောင်းသောအရာဖြစ်ပြီး သာသနာ့ပညာ ရှာ ဖွေဆည်းပူးခြင်း၌ ပိုင်သည်။ ကျောင်းသားသည် ဆရာ၊ သူငယ်ချင်းများ နှင့် အခြားသူများထံမှ အကျိုးခံစားဖို့အတွက် ကပ်ဖားရပ်ဖားလုပ်ဖို့ အရေးကြီးသည်။

ပညာရှင်များပြောကြသည်မှာ-သာသနာ့ပညာသည် သေးသိမ်မှု မရှိဘဲ ဂုဏ်သိက္ခာ အတိပြီးသည်။ သေးသိမ်သောအရာ၌ ဂုဏ်သိက္ခာ အလျှင်းမရှိချေ။ ကဗျာဆရာက ကဗျာစပ်သည်မှာ

"ကျွန်ုပ်သည် ဂုဏ်သိက္ခာ ချီးမြှင့်ဖို့မျှော်လင့်နေသော အသင်၏ စိတ်ရိုင်းကို တွေ့သည်။ အသင်သည် ထိုစိတ်ရိုင်းကို ချိုးနှိမ်မှ ဂုဏ် သိက္ခာရရှိမည်ဖြစ်သည်။"

## အခန်း (၁၁)

## ပညာသင်ယူနေစဥ် သက္ကဝါတရား လက်ဆုပ် လက်ကိုင်ပြုခြင်း

အချို့ပညာရှင်များသည် ဤကဏ္ဍနှင့်ပတ်သက်၍ ကိုယ်တော် သခင်ﷺထံမှ ဟဒီးဆ်တစ်ပုဒ်ကို ဆင့်ပြန်ခဲ့သည်။ ကိုယ်တော်သခင် ﷺမိန့်သည်မှာ အကြင်သူသည် ပညာသင်ယူချိန်၌ သက္ကဝါတရား မမွေး မြူခဲ့သော် အလ္လာဟ်အရှင်မြတ်သည် ထိုသူ့ကို (၃)ခုသောအရာများထဲမှ

အရာတစ်ခုဖြင့် စမ်းသပ်တော်မူမည်။ ငယ်ရွယ်နုပျိုချိန်၌ သေဆုံးသည်ဖြစ်စေ၊ ရွာများ၌ နေစေသည်ဖြစ်စေ ၊ အုပ်ချုပ်သူကို အလုပ်အကျွေးပြုစေခြင်းဖြစ်စေစေသည့်ကိစ္စများဖြင့် စမ်းသပ်တော်မူမည်။ ဒီဟာဒီးဆ်သည် (လုပ်ကြံလိုဆယ်ထားသော) موضوعဖြစ်သည်။ ကျောင်းသားသည် သက္ကဝါတရား အရှိဆုံးသူဖြစ်သည့်အချိန် သူ၏အိလ်မ်သည် အကျိုးအရှိဆုံးဖြစ်နေမည်။ သူ့အဖို့ သင်ယူဖို့ ပိုလွယ်ကူမည်။ အကျိုးကျေးဇူးလည်းများလာမည်။ ကျောင်းသားသည် ပြည့်ဝသော သက္ကဝါတရားထားခြင်း၊ အလ္လာဟ်အရှင်မြတ်ကို ပြည့်ပြည့်ဝဝကြောက်ရွံ့ခြင်းကြောင့် ဗိုက်ပြည့်ခြင်း၊ များများအိပ်ခြင်းနှင့် အကျိုးမရှိသော စကားများများပြောခြင်းမှ ရှောင်ကြဉ်နိုင်မည်။ ဖြစ်နိုင်လျှင် ဈေးမှ အစားအစာ စားခြင်းကို ရှောင်သင့်သည်။ ဈေးမှ အစားအစာသည် မသန့် ရှင်းမှု၊ အလွဲသုံးစားလုပ်မှုနှင့် အလွန်နီးကပ်သောကြောင့် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်ကို သတိရတသခြင်းမှ ဝေးစေပြီး မေ့လျော့မှုနှင့် နီးစေသည်။ အစားအစာ ဝယ်မစားနိုင်သော ဆင်းရဲသားများ၏ အရှုသည် ဈေး၌ရှိသော အစားအစာအပေါ်ကျရောက်သွားပြီး ထိုအစားအသောက်ကြောင့် ဆင်းရဲသားများဒုက္ခခံစားရသောကြောင့် ဖြစ်သည်။ ထို့ကြောင့် ထိုဈေးမှ အစားအစာထဲ၌ ဗရ်ကာသ်မင်္ဂလာမရှိတော့ပေ။

အကြောင်းအရာတစ်ခုလာရှိသည်မှာ------ရှိုင်ခ်အေမာမ်မုဟမ္မဒ်ဗင်န်ဖသ္ဒ်လ် ﷺသည် ပညာသင်ယူနေစဉ်၌ ဈေးမှအစားအစာကို အမြဲမစားခဲ့ပေ။ ဆရာကြီး၏ ဖခင်သည် ရွာ၌နေထိုင်သူဖြစ်ပြီး ဆရာကြီး

အဖို့ အစားအစာ ပြင်ဆင်ပေးလေ့ရှိသည်။ ဂျူမှအဟ်နေ့၌ ဆရာကြီးထံ လာလေ့ရှိသည်။ တစ်ရက် မိမိသားထံ၌ ဈေးမှအစားအစာကို မြင်သော အခါ ဒေါသထွက်ပြီး စကားမပြောတော့ပေ။ သူ၏သားက အကြောင်း ပြချက်ပေး၍ ပြောကြားသည်မှာ -ကျွန်ုပ်သည် ဈေးမှအစားအစာကို မဝယ်ရုံသာမက ကြိုက်လည်းမကြိုက်ပေ။ သို့သော် ကျွန်တော့် သူငယ် ချင်းသည် ထိုအစားအစာကို ပေးပို့ပေးခဲ့သည်။ ထိုအခါဆရာကြီး၏ ဖခင်က ဆရာကြီးအား ဆူသည်။ အကယ်၍ အသင်သည် ထိုအစားအစာ ကဲ့သို့ အရာမျိုးမှ အလေးအနက်ထား ရှောင်ကြဉ်ခဲ့ပါလျှင် အသင့် သူငယ်ချင်းသည် ထိုအစားအစာကို ပို့ဖို့အတင့်ရဲမည် မဟုတ်ပေ။ ဆရာ ကြီးများသည် ဤနည်းအတိုင်း ရှောင်ကြဉ်ခြင်းတရားကို လက်ဆုပ် လက်ကိုင် ပြုထားကြသည်။ ထို့အတွက်ကြောင့် သာသနာ့ပညာ သင်ယူ မှုနှင့်ဖြန့်ချိမှုအတွက်သာ ရပ်တည်သွားနိုင်ကြပြီး သူတို့၏နာမည်များ သည်လည်း ကေယာမသ်တိုင် ပွဲတင်ထပ်နေပေတော့မည်။

လောကီကို အလွန်ကျောခိုင်းသော ဖိကဟ်ပညာရှင်များထဲမှ ပညာ့ရှင်တစ်ပါးသည် ကျောင်းသားအား မှာတမ်း မိန့်ကြားသည်မှာ- အသင်သည် အတင်းပြောသူ၊ စကားများသောသူနှင့် အတူထိုင်ခြင်းမှ ရှောင်ဖို့အရေးကြီးသည်။ ဆက်လက်မိန့်သည်မှာ- စကားများသူသည် အသင့် သက်တမ်းကိုခိုးပြီး အသင့်အချိန်ကို ဖြုန်းသောသူသာ ဖြစ်သည်။ ဖျက်လို့ဖျက်ဆီးလုပ်သူများ၊ အပြစ်ကျူးလွန်သူများ၊ တစ်ဖက်ပိတ်များ နှင့် ကင်းကင်းကွာကွာနေခြင်းသည် သက္ကဝါရှောင်ကြဉ်ခြင်းတရား

ရှိခြင်းထဲမှ ဖြစ်သည်။ သူမွန်သူမြတ်များနှင့် အတူနေခြင်းသည်လည်း ဆင်ခြင်တုံတရားရှိခြင်းထဲမှ ဖြစ်သည်။ အကြောင်းမှာ အတူနေခြင်း၌ အကျိုးသက်ရောက်မှု ရှိသည်မှာ မလွဲမသွေပင်ဖြစ်သည်။

ကိဗ်လဟ် ဘက်သို့ မျက်နှာမူ၍ထိုင်ခြင်း၊ ကိုယ်တော်မြတ်ﷺ၏ စွန္နဟ်တော်ကို ကျင့်သုံးခြင်း၊ မွန်မြတ်သော ပုဂ္ဂိုလ်များ၏ ဒုအာကို အခွင့်ကောင်းရယူခြင်းနှင့် ညှင်းပမ်းနှိပ်စက်ခံရသူများ၏ ဒုအာမှရှောင်ကြဉ်ခြင်းသည် ဆင်ခြင်တုံတရား ရှိခြင်းထဲမှ ဖြစ်သည်။

အကြောင်းအရာတစ်ခုလာရှိသည်မှာ--------- ပုဂ္ဂိုလ်သူငယ်ချင်းနှစ်ယောက်သည် နယ်မြေရပ်ခြား၌ ပညာသင်ယူရန်အတွက် ထွက်လာခဲ့ကြသည်။ နှစ်အတန်ကြာပြီးနောက် ထိုသူနှစ်ဦးလုံးသည် မိမိမြို့သို့ ပြန်လာခဲ့ကြသည်။ နှစ်ဦးအနက်တစ်ဦးသာ ဖိကဟ်ပညာရှင်ဖြစ်ပြီး ကျန်တစ်ဦးက ဖိကဟ်ပညာရှင် မဖြစ်ပေ။ မြို့၌ရှိသော ဖိကဟ်ပညာရှင်များ စတင်သတိထားမိပြီး ထိုသူနှစ်ဦး၏ အခြေအနေ ပညာသင်ယူရာ၌ နောက်စာပြန်လေ့လာပုံနှင့် ထိုင်ပုံထိုင်နည်းအကြောင်း စုံစမ်းကြရာ ဖိကဟ်ပညာရှင် ဖြစ်လာသောသူသည် နောက်စာပြန်ဖတ်ချိန်၌ ကိဗ်လဟ်ဘက်ကို မျက်နှာမူ၍ ထိုင်လေ့ရှိပြီး မိမိပညာသင်ကြားဖို့လိုလားသော မြို့ကိုသာ ဦးတည်သည်။ အခြားတစ်ယောက်သည် ကိဗ်လဟ်ဘက်ကို ကျောပေးထိုင်ပြီး မြို့မဟုတ်သောနေရာ ပညာရှင်နည်းပါးသော တောခေါင်ခေါင်ကို ဦးတည်သည်ဟု သတင်းပေးခံခဲ့ရသည်။ ထိုအခါ သာသနာ့ပညာရှင်များနှင့် ဖိကဟ်ပညာရှင်များ တစ်ညီတစ်ညွတ်တည်း

ဆုံးဖြတ်ချက်ချကြသည်မှာ------ဖိကဟ်ပညာရှင် ဖြစ်သွားသောသူသည် ကိဗ်လဟ်ဘက်ကို မျက်နှာမူခြင်း၏ မင်္ဂလာနှင့် မွတ်စ်လင်မ်များ၏ တောင်းဆုတော်မင်္ဂလာကြောင့် ဖိကဟ်ပညာရှင်ဖြစ်ခြင်းသာ ဖြစ်ကြောင်းဆုံးဖြတ်ချက်ချသည်။ ထိုင်ရာ၌ ကိဗ်လဟ်ဘက်ကို မျက်နှာမူခြင်းသည် စွန္နသ်ဖြစ်သည်။ လိုအပ်ချက်ရှိပါက အခြားဘက်လှည့်ထိုင်လို့ရသည်။အကြောင်းမှာမြို့သည်တရားအားထုတ်သူများ၊ကောင်းသောသူများနှင့်မကင်းကွာနိုင်ပေ။ အပေါ်ယံအားဖြင့် ပြောရလျှင် တရားအားထုတ်သူများထဲမှ တစ်ယောက်သည် ည၌ သူ့အတွက် ဒုအာတောင်းပေးမည်ဖြစ်သည်။

ကျောင်းသားသည် နဖ်လ်များ၊ စွန္နသ်များကို အထင် မသေးသင့်ပေ။ နဖ်လ်များကို အထင်သေးသူသည် စွန္နသ်တော်များမှ လက်မဲ့ဖြစ်ရမည်။ စွန္နသ်တော်များကို အထင်သေးသူသည်ဖရသွ်များမှ လက်မဲ့ဖြစ်ရမည်။ ဖရသွ်များကို အထင်သေးသူသည် အာခေရသ် တမလွန်ဘဝကောင်းစားရေးမှ လက်မဲ့ဖြစ်ရမည်။

ကျောင်းသားသည် နမားဇ်များများ ဝတ်ပြုဆောက်တည် သင့်သည်။ အလ္လာဟ်အသျှင်မြတ်အား ကြောက်ရွံ့သူများကဲ့သို့ ဝတ်ပြု ရမည်။ ထိုသို့ဝတ်ပြုခြင်းသည် ပညာသင်ယူဆည်းပူးရာ၌ အထောက်အကူဖြစ်သည်။ ကျွန်ုပ်သည် ရှိုင်ခ်ခလီးလ်ဇာဟိဒ်ဟဂျ်ဂျားဟ်နဂျ်မွဒ္ဒီးန်အုမရ်ဗင်န်မုဟမ္မဒ်နစဖီ၏ ကဗျာရွတ်ပြမည်။ အသင်သည် မိန့်မှာချက်များ၊ တားမြစ်ချက်များကို ထိန်းသိမ်းစောင့်ရှောက်သူဖြစ်ပါ။ ၎င်းနောက်

အသင်သည် နမားဇ်ကို စွဲစွဲမြဲမြဲဝတ်ပြုပါ။ တရားတော်လာ ပညာရပ်များရှာဖွေဆည်းပူးပါ။ သန့်ပြန့်စင်ကြယ်သော ရိဇ်ဇီများဖြင့် အသင် ကြိုးစားပါ။ အသင်သည် ဟာဖိဇ်၊ ဖိကဟ်ပညာရှင်ဖြစ်မည်။ အသင့် အရှင်သခင် သာပိုချီးမြှင့်မည်ကို မျှော်ကိုးပြီး ထိုအရှင့်ထံ မိမိကျက်မှတ်မှုကို ထိန်းသိမ်းစောင့်ရှောက်ရန် တောင်းခံပါ။ အလ္လာဟ်အရှင်မြတ်သည်သာ အကောင်းဆုံး ထိန်းသိမ်းစောင့်ရှောက်သူ ဖြစ်သည်။ ဆရာကြီးကပင် ကဗျာဆက်ဆိုသည်။ အသင်တို့ အမိန့်နာခံကြ။ ကြိုးစားကြ။ မပျင်းကြနှင့်။ အသင်တို့သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်ထံ ပြန်လှည့်ကြရမည်သာ။ အသင်တို့ မအိပ်ကြနှင့်။ အကောင်းဆုံးဖန်ဆင်းခံများသည် ညဥ့်၌ အနည်းငယ်မျှသာ အိပ်သူများဖြစ်ကြသည်။

အခြေအနေတိုင်း၌ ကြိုတင်လေ့လာနိုင်ရန် **မှတ်စုစာအုပ်** တစ်အုပ်ကို မြဲမြဲဆောင်ထားသင့်သည်။ အကြင်သူ၏ လက်တစ်ဖက်ထဲ၌ မှတ်စုစာအုပ်မရှိပါက ထိုသူ၏နှလုံးသားထဲ၌လည်း **အသိဉာဏ် အမြော်အမြင်**သည် **အနည်မထိုင်ပေ**။ ပညာရှင်ကြီးများ၏ နှုတ်များမှ ကြားသမျှ ရေးဖို့ရန် မှတ်စုစာအုပ်ထဲ၌ စာရွက်ဖြူသာရှိသင့်သည်။ ကြားသမျှရေးဖို့ မင်အိုးကို အမြဲအတူထားသင့်သည်။ မုချကောန် ကျွန်ုပ်တို့သည် ဟဇရသ်ဟော့လားလ်ဗင်န်ယစားရ်ﷺ၏ ဟဒီးဆ်တော်ကို တင်ပြခဲ့ပြီးဖြစ်သည်။

## အခန်း (၁၂)

## မှတ်သားဉာဏ်တိုးစေသောအရာ

ကျက်မှတ်ခြင်း၏ အင်အားအကြီးဆုံး အကြောင်းခံများသည် ကြိုးစားခြင်း၊ စွဲစွဲမြဲမြဲလုပ်ခြင်း၊ အစားနည်းနည်းစားခြင်း၊ သဟ်ဂျဒ် ဖတ်ခြင်း၊ ကုရ်အာန်ဖတ်ခြင်း တို့ဖြစ်သည်။ ကုရ်အာန် အကြည့်ဖတ်ခြင်း ထက် မှတ်သားဉာဏ် တိုးစေသောအရာ မရှိဟုဆိုကြသည်။ ကုရ်အာန် အကြည့်ဖတ်ခြင်းသည် အမြတ်ဆုံး ဖြစ်သည်။ ဟဇရသ်ရှဒ္ဒါးဒ်ဗင်န် ဟကီးသည် မိမိနောင်တော်အချို့ ကွယ်လွန်ပြီးနောက် အိပ်မက်၌ တွေ့ သောကြောင့် အသင်သည် ဘယ်အရာကို အကျိုးအရှိဆုံးအရာအဖြစ် မြင်ပါသလဲဟု မေးရာ ထိုသူက ကုရ်အာန်အကြည့်ဖတ်ခြင်း ဖြစ်သည်ဟု ဖြေကြားခဲ့သည်။

စာအုပ်သယ်သောအခါ၊ 'မ'သောအခါ ဤဒုအာကို ဖတ်ရမည်။

بسم الله وسبحان الله والحمد لله ولاإله إلاالله والله أكبر ولاحول ولا قوة إلا بالله العلي العظيم العزيز عدد كل حرف كتب ويكتب أبد الآبدين ودهرالداهرين

ဖရည်နမားဇ်ဝတ်ပြုပြီးတိုင်း အောက်ပါဒိုအာကို ဖတ်ရမည်။

آمنت بالله الواحد الأحد الحق، وحده لاشريك له، وكفرت بما سواه

ငင်းနောက် တမန်တော်မြတ်ﷺသည် စကြာဝဠာတိုင်းအတွက် ကရုဏာရှင်ဖြစ်သောကြောင့် များစွာ ဒရူးဒ်ပို့သရမည်။

ပညာရှင်များ ပြောကြသည်မှာ---------- အေ့မာမ်ရှာဖေ့အီﷺက ကျွန်တော်သည် ဆရာဝကီးအ်ﷺထံ မိမိမှတ်ဉာဏ် မကောင်းကြောင်း ပြောပြခဲ့ရာ ဆရာဝကီးအ်ﷺက ကျွန်တော့်အား အပြစ်ရှောင်ကြဉ်ရန် လမ်းညွှန်ပေးခဲ့သည်။ အကြောင်းမှာ မှတ်သားဉာဏ်သည် အလ္လာဟ် အရှင်မြတ်၏ ချီးမြှင့်မှုဖြစ်သည်။ အပြစ်ကျူးလွန်သူသည် အလ္လာဟ် အရှင်မြတ်၏နူးရ် ချီးမြှင့်မှုမခံရပေ။

တံပူစားခြင်း၊ ပျားရည်လျက်ခြင်း၊ ( الكندر) Frankincense, Olibanum, အာဟာရဓါတ်ဖြည့်စာကို သကြားနှင့်တွဲစားခြင်း၊ နေ့စဉ် နေ့တိုင်း စပျစ်ခြောက်အနီ(၂၁)လုံးကို မြိန်ရေယှက်ရေ စားသုံးခြင်း သည် မှတ်ဉာဏ်အား ကောင်းစေသည်။ ရောဂါအပေါင်းမှ ပျောက်ကင်း စေသည်။ ချွဲနည်းစေသော အစိုဓါတ်နည်းစေသော အစားအစာစားခြင်း သည် မှတ်ဉာဏ် ပိုကောင်းစေသည်။ မေ့လျော့မှု အားကောင်းစေသော အရာများမှာ-ပြစ်မှုဒုစရိုက်များကျူးလွန်ခြင်း၊ လောကီရေးရာကိစ္စများ၌ ပူဆွေးသောကရောက်ခြင်း၊ အလုပ်များခြင်း၊ အချိတ်အဆက်များခြင်း၊ ချွဲထွက်ရာ၌ ပိုစေသောအရာတိုင်းသည် မေ့လျော့မှု ဖြစ်စေသည်။

အသိဉာဏ်ရှိသူသည် ကောင်းကျိုးမရှိဘဲ ဆိုးကျိုးသာရှိသော လောကီရေးရာကိစ္စများကို အလေးမထားသင့်ပေဟု ကျွန်ုပ်တို့ ဖော်ပြ

ပြီးဖြစ်သည်။ လောကီအရေးကို တွေးပူခြင်းသည် နှလုံးသားတွင်းဝယ် အမှောင်ထုမှ မကင်းစင်နိုင်ပေ။ လောကုတ္တရာအရေး တွေးပူခြင်းသည် နှလုံးသားအတွင်းဝယ် နူးရ်ရောင်ခြည်တော်မှ မကင်းဝေးနိုင်ပေ။ ထိုသို့ တွေးပူခြင်း၏ အကျိုးသက်ရောက်မှုသည် နမားဇ်အတွင်း၌ အထင်းသား ပေါ်လွင်နေသည်။ လောကီအရေး တွေးပူခြင်းသည် ကောင်းမှုလုပ်ခြင်း မှတားပြီး လောကုတ္တရာ အရေးတွေးပူခြင်းသည် ကောင်းမှုလုပ်ခြင်းကို လှုံ့ဆော်ပေးသည်။ ရိုကျိုးစွာ နမားဇ်ဆောက်တည်ခြင်းနှင့် သာသနာ့ ပညာသင်ယူခြင်းသည် ပူဆွေးသောက ကင်းဝေးစေသည်။ ရှိုင်ခ် အေမာမ်နဆွ်ရ်ဗင်န်ဟာစန်မုရ်ဂီနာနီ ﷺက မိမိ၏ကဗျာထဲမှာ ပြောသကဲ့ သို့ပင်ဖြစ်သည်။ အို နဆွရ်ဗင်န်ဟာစန်! အသင်သည် စုစည်းထိန်းသိမ်း အပ်သော ပညာရပ်အပေါင်းအား ဂရုတစိုက်ထိန်းသိမ်းပါ။ ထိုသို့ ထိန်း သိမ်းခြင်းသည် အသင့်ကို ပူဆွေးဝမ်းနည်းမှုမှ ကင်းဝေးစေသည်။ ထို ထိန်းသိမ်းခြင်းအပြင် အခြားအရာများသည် စိတ်မချရပေ။

ရှိုင်ခ်အေမာမ်နဂျ်မွဒ္ဒီးန်အုမရ်ဗင်န်မုဟာမ္မဒ်နစဖီ (ﷺ)က မိမိ၏ ام ولد ကျွန်မနှင့်ပတ်သက်၍ ကဗျာစပ်ဆိုသည်။ ကျွန်တော့်အတွက် အချစ်တွေ ယိုဖိတ်နေပြီး တောက်ပတဲ့ပါးပြင်လေး နှစ်ဖက်ရှိသော မခို့တရို့ကြည့်တတ်သည့် သူမလေးအပေါ် ငြိမ်းချမ်းသာယာမှုအပေါင်း ခညောင်းပါစေ။ ကျွန်တော်ကို ဖမ်းစားထားပြီး ကျွန့်တော်ရဲ့ တက်ကြွ မှုကို လှုပ်ခါသွားစေသည့် မိန်းမလှလေးတစ်ယောက် ဘယ်ပန်းချီမှ တုလို့မမီဆိုသလို သူမ၏ ဝိသေသအလုံးစုံ ဖော်ကျူးဖို့ ဦးနှောက်

အသိဉာဏ်တွေတောင် ဝေဝါးသွားရတယ်။ ထိုအခါ ကျွန်တော်သည် သူမကိုတားရသည်။ အသင်မ ကျွန်တော့်ကို လွှတ်ထားပေးပါ။ အသင်မ ရဲ့အချစ်တွေနဲ့ မမွေ့လျော်ရပါစေနဲ့။ ကျွန်တော်က ပညာရပ်များ သင်ဖို့ ရှာဖွေဖို့သာ နှစ်ခြိုက်တဲ့သူဖြစ်ပါသည်။ ကျွန်ုပ်အဖို့ ပညာ၊ ထွတ်မြတ်မှု၊ သက္ကဝါ ဆင်ခြင်တုံတရား ရှာဖွေခြင်း၌သာ အလှသရဖူ ဆောင်းထား သည့် ကချေသည်များ၏ သီဆိုမှု၊ မွှေးကြိုင်သောအနံ့မှ ကင်းစင်မှု စစ် စစ်ရှိပါတယ်။

ပညာမေ့စေသော အကြောင်းခံများမှာ- နံနံပင်စားခြင်း၊ ချဉ် သောပန်းသီးစားခြင်း၊ လက်ဝါးကပ်တိုင်ကို ကြည့်ခြင်း၊ ကဗရ်များ၏ ကမ္ပည်းကျောက်တိုင်ဖတ်ခြင်း၊ ကုလားအုပ်အတန်းများကြားမှ ဖြတ် ခြင်း၊ ရှင်နေသောသန်းကို မြေပေါ်ချခြင်း၊ ကျောအပေါ် ဦးနှောက် အစွန်းက အပေါက်၌ သွေးပုပ်စုပ်ထုတ်ခြင်း၊ စသည့်ကိစ္စများ အားလုံး သည် မေ့လျော့မှုဖြစ်စေသည်။

## အခန်း (၁၃)

## ရိဇ်ဇ်ရိဇ္ဇ္ဇာရရှိစေသောအရာနှင့် တားမြစ်စေသောအရာ သက်တမ်းကိုရှည်စေသောအရာနှင့် တိုစေသောအရာ

ကျောင်းသားသည် မိမိရည်ရွယ်ချက် ပြီးမြောက်အောင် ကြိုး စားဖို့ ရိဇ္ဇ္ဇာ၊ ရိဇ္ဇ္ဇာပိုရမည့်အရာနှင့် သက်တမ်းရှည်သောအရာ၊ ကျန်းမာ

ရေးပိုစေသောအရာကို သိဖို့အရေးကြီးသည်။ ပညာရှင်များသည် ထို ကဏ္ဍအသီးသီး၌ စာအုပ်ပေါင်းများစွာ ပြုစုခဲ့သည်။ ကျွန်တော်သည် ဤ နေရာ၌ အချို့ကို အတိုချုံးတင်ပြမည်။ ကိုယ်တော်သခင်ﷺ မိန့်တော်မူ သည်။ ဒုအာသာလျှင် သက်ဒီးရ်ကို ပြောင်းပေးနိုင်သည်။ ကောင်းခြင်း သည်သာ သက်တမ်းရှည်စေသည်။ လူသည် မိမိကျူးလွန်သော အပြစ် ကြောင့် ရိဇ္ဇ္ခလက်မဲ့ ဖြစ်ရသည်။ အပြစ်ကျူးလွန်ခြင်းသည် ရိဇ္ဇ္ခ လက်မဲ့ဖြစ်ခြင်း၏ အကြောင်းခံဖြစ်ကြောင်း ဤဟဒီးဆ်အရ အတည်ပြု လို့ရသည်။ အထူးသဖြင့် လိမ်လည်ခြင်းသည် ဆင်းရဲစေသည်။ ထို ဆင်းရဲစေခြင်းနှင့်ပတ်သက်သည့် သီးသန့် ဟဒီးဆ်တစ်ပုဒ်လာရှိသည်။ ထို့အတူ နံနက်ခင်း၌ အိပ်ခြင်းသည် ရိဇ္ဇ္ခကိုတားမြစ်သည်။ လက်မဲ့ ဖြစ်စေသည်။ များစွာအိပ်စက်ခြင်းသည် ဆင်းရဲစေပြီး ပညာကိုလည်း ပျောက်ဆုံးစေသည်။ ကဗျာဆရာစပ်ဆိုသည်မှာ...

လူတို့၏ ပျော်ရွှင်မှုများသည် ဝတ်စားဆင်ယင်မှု၌ရှိပြီး ပညာစုစည်းနိုင် ခြင်းသည် အိပ်မငိုက်ခြင်း၌ရှိသည်။

အချို့ကဗျာဆရာများက ကဗျာစပ်ကြသည်။

ကျွန်ုပ်၏ သက်တမ်းထဲမှ သတ်မှတ်ခြင်းခံရသော ညများ အကျိုးမဲ့ ကုန်ဆုံးနေခြင်းက ဆုံးရှုံးမှု မဟုတ်ပေဘူးလား။

အခြားကဗျာဆရာ တစ်ဦးကဆိုသည်။

ဟော့လူ..အသင်ညကိုထပြီးနမားဇ်ဖတ်ပါ။ အသင်ဘယ်လောက် အတိုင်း အတာ ညအိပ်ရမလဲဆိုတာ နည်းလမ်းမှန်ရကောင်းရလိမ့်မယ်။ ဘ၀ သက်တမ်းဆိုတာ ကုန်ဆုံးလျက်ရှိစမြဲပင်ဖြစ်သည်။

ဝတ်လစ်စလစ်အိပ်ခြင်း၊ ဝတ်လစ်စလစ်သေးပေါက်ခြင်း၊ ကိုယ် မသန့်နေချိန်စားသုံးခြင်း၊ ဘေးတစ်ဖက်မှီ၍ စားသုံးခြင်း၊ စားပွဲခင်းပေါ် ပြုတ်ကျသွားသော အစားအစာကို အထင်သေးခြင်း၊ ကြက်သွန်အဖြူ၊ အနီအခွံကိုမီးရှို့ခြင်း ၊လက်သုတ်ပုဝါဖြင့် တံမြက်စည်းလှဲခြင်း၊ ည၌ တံမြက်စည်းလဲခြင်း၊ အိမ်ထဲ၌ အမှိုက်ပစ်ခြင်း၊ ဆရာသခင်ကြီးများ ရှေ့ မှလမ်းလျှောက်ခြင်း၊ မိဘနှစ်ပါးကို နာမည်တပ်ခေါ်ခြင်း၊ တွေ့သမျှ အရာဖြင့် သွားကြားထိုးခြင်း၊ လက်နှစ်ဖက်ကို မြေကြီး၊ရွှံ့တို့ဖြင့် ဆေး ခြင်း၊ တံခါးဘောင်ပေါ်ထိုင်ခြင်း၊ တံခါးချပ်နှစ်ချပ်အနက် တစ်ချပ်ကို မှီခြင်း၊ အိမ်သာထဲ၌ ဝိုသူလုပ်ခြင်း၊ ခန္ဓာကိုယ်ပေါ်၌ရှိသော အဝတ်ကို ချုပ်ခြင်း၊ အဝတ်ဖြင့် မျက်နှာကိုခြောက်အောင်သုတ်ခြင်း၊ အိမ်၌ရှိသော ပင့်ကူအိမ်ကိုချန်ထားခြင်း၊ နမားဇ်ကို အပေါ့ရိုကလုပ်ခြင်း၊ အထင် သေးခြင်း၊ ဖဂ်ျရ်နမားဇ်ပြီးနောက် ဗလီမှအလျင်အမြန်ထွက်ခြင်း၊ ဈေး ကိုစောစောသွားပြီး နောက်ကျမှ ပြန်လာခြင်း၊ အတောင်းသန်သော ဆင်းရဲသားများထံမှ မုန့်အကျိုးအပဲ့များ ဝယ်ခြင်း၊ သားသမီးကို ဘဒ် ဒုအာပြုခြင်း၊ အိုးခွက်ပန်းကန်များ အုပ်မထားခြင်း၊ ထွက်သက်လေဖြင့် မီးငြိမ်းခြင်း၊ ထိုကိစ္စများအားလုံးသည် **ဆင်းရဲစေသည်။** ထိုကိစ္စများကို ဟာဒီးဆ်တော်များဖြင့် သိရသည်။ ကျိုးနေသော ကလောင်တံကို ပြန်

ဆက်ပြီးရေးခြင်း၊ ကျိုးနေသောဘီးဖြင့် ခေါင်းဖြီးခြင်း၊ မိဘနှစ်ပါး အတွက် အကောင်းဒုအာပြုမပေးခြင်း၊ ထိုင်လျက်ခေါင်းပေါင်းပေါင်း ခြင်း၊ ထလျက်ဘောင်းဘီဝတ်ခြင်း၊ စေးနဲ့တွန့်တိုခြင်း၊ လိုသည်ထက် လျှော့သုံးခြင်း၊ လိုသည်ထက် ပိုသုံးခြင်း၊ ပျင်းရိခြင်း၊ အလေးမထားခြင်း နှင့် ကိစ္စရပ်များကို အပေါ့ရိကလုပ်ခြင်းသည် ထိုနည်းတူစွာပင် **ဆင်းရဲ စေသည်။**

ကိုယ်တော်သခင်ﷺမိန့်တော်မူသည်။

အသင်တို့သည် ဆွဒကဟ်အလှူဒါနလုပ်ခြင်းဖြင့် ရိက္ခာချပေးဖို့ တောင်း ခံကြပါ။ နံနက်ခင်းအချိန်သည် စည်းစိမ်အသီးသီးကို တိုးစေသော မင်္ဂလာအချိန်ဖြစ်သည်။ အထူးသဖြင့် ရိက္ခာကို တိုးစေသည်။ လက်ရေး လှခြင်းသည် ရိက္ခာ၏ သော့တံများထဲမှ ဖြစ်သည်။ ပြုံးရွှင်သောမျက်နှာ၊ ချိုသာသော စကားသည် ရိက္ခာနှင့် မှတ်သားဉာဏ်တိုးစေသည်။

ဟဇရသ်ဟစန်ဗင်န်အလီ﷫ထံမှ ဆင့်ပြန်ချက် လာရှိသည်။ အိမ်ရှေ့ဝရံတာကို တံမြက်စည်းလှဲခြင်းနှင့် အိုးခွက်ပန်းကန်ဆေးခြင်း သည် ချမ်းသာစေသည်။ ရိက္ခာရစေသည့် အခိုင်မာဆုံး အကြောင်းခံ သည် နမားဇ်ကို ရိုသေလေးစားစွာဖြင့်ဖတ်ခြင်း၊ နမားဇ်၏ မဏ္ဍိုင်များ ကို အေးဆေးတည်ငြိမ်စွာ ဆောင်ရွက်ပြီး ဝါဂျိဗ်အချက်များ၊ စွန္နသ် အချက်များ၊ နဖ်လ်အချက်များကိုပါ ဆောင်ရွက်ခြင်း၊ ထိုရိုဇီရိက္ခာရစေ သောကဏ္ဍ၌ ကျားရှ်သ်နေတက်ချိန်နမားဇ်ဖတ်ခြင်းသည် ကျော်ကြား ပြီးဖြစ်သည်။ စူရာဟ်ဝါကေ့အဟ်ကို အထူးသဖြင့် ညအိပ်ချိန်၌

ဖတ်ခြင်း၊ စူရာဟ်မွလ်က်၊ စူရာဟ်မုဇ္ဇမ္မိလ်၊ စူရာဟ်လိုင်လ်၊ စူရာဟ် အင်န်ရှေ့ရားဟ်ဖတ်ခြင်း၊ အဇနေ်မဆိုမီအလျှင် ဗလီသို့ရောက်နှင့်ခြင်း၊ အမြဲသန့်ရှင်း သပ်ရပ်စွာနေခြင်း၊ ဖဂျ်ရ်စွန္နသ်နှင့်ဖိသ်ရ်နမားဇ်ကို အိမ်၌ တာဝန်ချခြင်း၊ ဖိသ်ရ်နမားဇ်ဖတ်ပြီးနောက် လောကီစကားမပြောခြင်း၊ မလိုအပ်ဘဲ အမျိုးသမီးများနှင့် စကားများများမပြောခြင်း၊ လောကီ လောကုတ္တရာအကျိုးမရှိသောအချည်းနှီးစကားမပြောခြင်း ထိုအရာများ သည် ရိုဇီရိက္ခာကျယ်ဝန်းစေသော အရာများဖြစ်သည်။ အဓိပ္ပာယ်မရှိ သည့် အရာ၌ မွေ့လျော်နေသူသည် အဓိပ္ပာယ်ရှိသည့်အရာကို လွတ် သွားမည်။ بزرجمهر ကမိန့်သည်မှာ- အသင်သည် စကားပေါသော လူတစ်ယောက်ကို တွေ့ပါက ထိုသူရူးနေကြောင်း ယုံကြည်လိုက်ပါ။

ဟဇရသ်အလီ ﷺမိန့်သည်မှာ- အသိဉာဏ် ပြည့်ဝသွားသောအခါ စကားနည်းသွားမည်။

ကျမ်းရှင် ﷺကပြောပြသည်။ ဤအဓိပ္ပာယ်မျိုး ကဗျာကို ကျွန် တော် ကြုံဖူးသည်။ လူ၏အသိဉာဏ် ပြည့်သွားပြီဆိုလျှင် စကားနည်း သွားသည်။ စကားများသည့်သူ ဖြစ်မည်ဆိုလျှင် ထိုသူသည် တုံးအသူ ဖြစ်ကြောင်း အသင်ယုံကြည်လိုက်ပါ။

အခြားကဗျာဆရာစပ်ဆိုသည်။

စကားပြောခြင်းသည်အလှတန်ဆာဖြစ်ပြီး နှုတ်ဆိတ်နေခြင်းသည် ငြိမ်း ချမ်းခြင်း ဖြစ်သည်။ အသင်စကားပြောသောအခါ စကားများသည့်သူ မဖြစ်ပါစေနှင့်။ ကျွန်ုပ်သည် မိမိ၏ နှုတ်ဆိတ်နေခြင်းအပေါ် ဘယ်သော

အခါမှ နောင်တမရခဲ့ပေ။ စကားပြောခြင်းအပေါ်၌သာ အကြိမ်ကြိမ် နောင်တရခဲ့သည်။

နေ့စဉ်နေ့တိုင်း ဆွဗ်ဟေ့ဆွာဒိက်(အာရုဏ်ဦး)အချိန်ရောက်ပြီးနောက်မှ ဖဂျရ်နမားဇ်ဖတ်ချိန်ထိ سبحان الله العظيم ،سبحان الله وبحمده، အကြိမ်(၁၀၀) ဖတ်ခြင်း၊ لاإله إلا الله الملك الحق المبين ကို နေ့စဉ် နံနက်-ညနေ အကြိမ်(၁၀၀)ဖတ်ခြင်း၊ နေ့စဉ် ဖဂျ်ရ်နမားဇ်ပြီးနောက် أستغفر الله وأتوب اليه

الحمد لله وسبحان الله ولاإله إلاالله ကို(၃၃)ကြိမ်ဖတ်ခြင်း၊ မဂ်ရိဗ်နမားဇ်ပြီးနောက်လည်း(၃၃)ကြိမ်ဖတ်ခြင်း၊ ဖဂျ်ရ်နမားဇ်ပြီးနောက် استغفار အကြိမ်(၄၀)ဖတ်ခြင်း၊ لا حول ولا قوة إلا بالله العلي العظيم များများဖတ်ခြင်း မြတ်နဗီﷺအပေါ် ဒရူးဒ်မေတ္တာပို့သခြင်း၊ ဂျုမုအဟ်နမားဇ်ပြီးနောက် اللهم أغنني بحلالك عن حرامك واكفني بفضلك عمن سواك ကို အကြိမ်(၇၀)ဖတ်ခြင်းတို့သည် ရိုဇီရိက္ခာ တိုးပွားစေသော အရာများထဲမှ ဖြစ်သည်။

ဤစနာအံချီးမွမ်းခြင်းကို နေ့စဉ်၊ညစဉ် ဖတ်ရမည်။

أنت الله العزيز الحكيم، أنت الله الملك القدوس، أنت الله الحليم الكريم، أنت الله خالق الخير والشر، أنت الله خالق الجنة والنار، عالم الغيب والشهادة، عالم السر

وأخفى، أنت الله الكبير المتعال، أنت الله خالق كل شيء، وإليه يعود كل شيء، أنت الله ديان يوم الدين، لم تزل ولا تزال، أنت الله لا إله إلا أنت، أنت الله الأحد الصمد، لم يلد ولم يولد، ولم يكن له كفوا أحد، أنت الله لا إله إلا أنت الرحمن الرحيم ،أنت الله لاإله إلا أنت الملك القدوس السلام المؤمن المهيمن العزيز الجبار المتكبر، لا إله إلا أنت الخالق البارئ المصور له الأسماء الحسنى، يسبح له ما فى السموات والأرض وهو العزيز الحكيم

ကောင်းမှုလုပ်ခြင်း၊ ဒုက္ခဖြစ်စေနိုင်သည့်အရာကို ဖယ်ရှားခြင်း၊ ဆရာသခင်များအား ဂုဏ်ပေးခြင်း၊ ဆွေမျိုးဆက်ခြင်း၊ နေ့စဉ်နေ့တိုင်း နံနက်ညနေ

سبحان الله ملء الميزان، ومنتهى العلم ومبلغ الرضا، وزنةالعرش،والحمد لله ولا إله إلا الله والله أكبر ملء الميزان،ومنتهى العلم ومبلغ الرضا، وزنة العرش

ကို(၃)ကြိမ်ရွတ်ဆိုခြင်း၊ စိမ်းလန်းစိုပြေသော သစ်ပင်များဖြတ်တောက်ခြင်းမှ ရှောင်ရှားခြင်း၊ လိုအပ်ချက်ရှိမှသာ ဖြတ်တောက်ခြင်း၊ ဝိုသူကို ပြည့်စုံစွာပြုလုပ်ခြင်း၊ ဂုဏ်ပေးလေးစားစွာဖြင့် နမားဇ်ဆောက်တည်ခြင်း၊ ဟဂ်ျနှင့်အွမ္မရာ တွဲ၍လုပ်ခြင်း၊ ကျန်းမာရေး ဂရုစိုက်ခြင်းသည် သက်တမ်းရှည်စေသော အရာများဖြစ်သည်။

ကျောင်းသားသည် ရှိုင်ခ်အေမာမ်အဘူလ်အဗ္ဗားစ်မွတ်စ်သင်ဖိရီ ﵁ စုစည်းခဲ့သော ကိုယ်တော်မြတ်ﷺ၏ ဆေးပညာ အမည်ရှိစာအုပ်၌ ဆေးပညာနှင့်ပတ်သက်၍ လာရှိထားသော ဟဒီးဆ်တော်များမှ မင်္ဂလာ

ယူရလေအောင် ဆေးပညာရပ် တစ်စိတ်တစ်ဒေသ သင်ယူရန် အရေးကြီးသည်။ ထိုစာအုပ်ကို လေ့လာသူသည် အကျိုးခံစားရမည်ဖြစ်ပါသည်။

## နိဂုံးချုပ်

ချီးမွမ်းထောပနာမှု အလုံးစုံသည် ဤစာအုပ်ကို စလယ်ဆုံး ပြည့်ဝစွာ ရေးသားနိုင်အောင် ပြုလုပ်ပေးသနားတော်မူသော အလ္လာဟ် အရှင်မြတ်အဖို့သာ ဖြစ်ပါသည်။ မွန်မြတ်သော ရစူလ်တော်များထဲမှ အမွန်မြတ်ဆုံး ရစူလ်တမန်တော်လည်းဖြစ် ကျွန်ုပ်တို့၏ ခေါင်းဆောင် လည်းဖြစ်သော မုဟမ္မဒ်သခင်ﷺအပေါ်၌ အလ္လာဟ်အရှင် ငြိမ်းချမ်း သာယာမှုအပေါင်းခညောင်းစေတော်မူပါ။ (ထိုရစူလ်တမန်တော်၏ မိသားစု၊ အိမ်သူအိမ်သားများ၊ ထိုရစူလ်တမန်တော်၏ ကျော်ကြားသော မိတ်ဆွေခေါင်းဆောင်များအပေါ်၌ရာသီအသီးသီး၊ခေတ်အလီလီပြောင်း လဲခြင်းနှင့်အညီ ငြိမ်းချမ်းသာယာမှုအပေါင်းခညောင်းပါစေသား။)

**تمت بالخير ولله الفضل والمنة.أسأل الله خيرا والجنة بهذا الكتاب.آمين. وما توفيقي إلا بالله، عليه توكلت وإليه أنيب.**

**ယကီနွလ္လာဟ် (ကာစေ့မီ)**
**ဟစ်ဂျ်ရီ (၁၄၄၅)ခု၊ ဇုလ်ကအ်ဒဟ်လ၊ ၂၀ရက်**
**ခရစ်နှစ် (၂၀၂၄)ခု၊ မေလ၊ ၂၉ရက်**
**မနက် (၈း၂၄)အချိန်တွင် ဘာသာပြန်ဆိုပြီးစီး၏။**